

Form (3)

P000113

# THE REPUBLIC OF THE UNION OF MYANMAR

Myanmar Investment Commission

## PERMIT

Permit No. 169/2019 Dated 5 July 2019

This permit is issued by the Myanmar Investment Commission in accordance with Section 25 (c) of the Myanmar Investment Law.

(1) Investor Name U WIN SWE

(2) Citizenship MYANMAR

(3) Residential Address NO.6, PYAY ROAD, 6 MILE, WARD 10, HLAING TOWNSHIP, YANGON

(4) Name and Address of Principal Organization WIN & WIN COMPANY LIMITED, NO.6, PYAY ROAD, 6 MILE, WARD 10, HLAING TOWNSHIP, YANGON

(5) Place of incorporation MYANMAR

(6) Type of Business MANUFACTURING OF SHOES AND SHOE BAGS ON CMP BASIS

(7) Place(s) of Investment Project BICYCLE FACTORY (KYAUKSE), KYAUKSE TOWNSHIP, MANDALAY REGION

(8) Foreign Capital Amount NIL

(9) Period for Foreign Capital to be brought in NIL

(10) Total Amount of Capital (Kyat) 2500.000 MILLION (INCLUDING US$ 1.425 MILLION)

(11) Construction/ Preparation Period 1 YEAR

(12) Validity of Permit 30 YEARS

(13) Form of Investment WHOLLY MYANMAR OWNED

(14) Name of Company Incorporated in Myanmar WIN & WIN COMPANY LIMITED




Thaung Tun

(Thaung Tun)
Chairperson



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် ၁၆၉/၂၀၁၉ ၂၀၁၉ ခုနှစ်၊ ဇူလိုင်လ 5 ရက်

မြန်မာနိုင်ငံနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ဥပဒေပုဒ်မ ၂၅ (ဂ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည် -

(၁) ရင်းနှီးမြှုပ်နှံသူ/ ကမကထပြုသူအမည် ဦးဝင်းဆွေ

(၂) နိုင်ငံသား မြန်မာ

(၃) နေရပ်လိပ်စာ အမှတ်-၆၊ ပြည်လမ်း၊ ၆ မိုင်၊ ၁၀ ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့

(၄) ပင်မအဖွဲ့အစည်းအမည်နှင့်လိပ်စာ ဝင်းနှင့်ဝင်းကုမ္ပဏီလီမိတက်၊ အမှတ်-၆၊ ပြည်လမ်း၊ ၆ မိုင်၊ ၁၀ ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့

(၅) ဖွဲ့စည်းရာအရပ် မြန်မာ

(၆) ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား CMP စနစ်ဖြင့် ဖိနပ်နှင့်ဖိနပ်ထည့်အိတ်များချုပ်လုပ်ခြင်းလုပ်ငန်း

(၇) ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ) စက်ဘီးစက်ရုံ(ကျောက်ဆည်)၊ကျောက်ဆည်မြို့နယ်၊ မန္တလေးတိုင်းဒေသကြီး

(၈) နိုင်ငံခြားမတည်ငွေရင်းပမာဏ မရှိ

(၉) နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ မရှိ

(၁၀) စုစုပေါင်း မတည်ငွေရင်းပမာဏ(ကျပ်) ကျပ် ၂၅၀၀.၀၀၀ သန်း (အမေရိကန်ဒေါ်လာ ၁.၄၂၅ သန်းအပါအဝင် စုစုပေါင်း ကျပ်နှစ်ထောင့်ငါးရာသန်းတိတိ)

(၁၁) တည်ဆောက်မှုကာလ ၁ နှစ်

(၁၂) ရင်းနှီးမြှုပ်နှံမှုခွင့်ပြုသည့်သက်တမ်း ၃၀ နှစ်

(၁၃) ရင်းနှီးမြှုပ်နှံမှုပုံစံ ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု

(၁၄) မြန်မာနိုင်ငံတွင်ဖွဲ့စည်းမည့်ကုမ္ပဏီအမည် ဝင်းနှင့်ဝင်းကုမ္ပဏီလီမိတက် (Win & Win Co., Ltd.)

Thaung Tun

(သောင်းထွန်း)

ဥက္ကဋ္ဌ




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

စာအမှတ်၊မရက- ၃/ခ-၀၄၀/၂၀၁၉(၀၈၈-၈ )

ရက်စွဲ ၊ ၂၀၁၉ ခုနှစ် ဇူလိုင်လ 5 ရက်

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ဝင်းနှင့်ဝင်းကုမ္ပဏီလီမိတက် (Win & Win Co., Ltd.)မှ CMP စနစ်ဖြင့် ဖိနပ်နှင့်ဖိနပ်ထည့်အိတ်များချုပ်လုပ်ခြင်းလုပ်ငန်း အဆိုပြုချက်အပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဆုံးဖြတ်ချက်**

ရည်ညွှန်းချက် ။ (၁) စက်မှုဝန်ကြီးဌာန၏ ၂၀၁၉ ခုနှစ် မေလ ၁၆ ရက်စွဲပါစာအမှတ်၊ ၈-စမ(၂) ၂၀၁၈-၂၀၁၉(၂၆၆၃)

(၂) Win & Win Company Limited ၏ ၂၀၁၉ ခုနှစ် မေလ ၁၇ ရက်စွဲပါစာ

၁။ ဝင်းနှင့်ဝင်းကုမ္ပဏီလီမိတက် (Win & Win Co., Ltd.) မှ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ စက်ဘီးစက်ရုံ (ကျောက်ဆည်)ရှိ မြေဧရိယာ ၂၇.၆၅ ဧကအနက်မှ ၁၃.၈၀ ဧက အားငှားရမ်း၍ CMP စနစ်ဖြင့် ဖိနပ်နှင့်ဖိနပ်ထည့်အိတ်များ ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် စက်မှုဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက်တင်ပြခြင်းအား ၂၀၁၉ ခုနှစ် ဇွန်လ ၂၈ ရက် နေ့တွင်ကျင်းပပြုလုပ်သော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၀/၂၀၁၉) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ၊ နည်းဥပဒေကိုကျင့်သုံးလျက် ဝင်းနှင့်ဝင်း ကုမ္ပဏီလီမိတက် (Win & Win Co., Ltd.) အား CMP စနစ်ဖြင့် ဖိနပ်နှင့်ဖိနပ်ထည့်အိတ်များချုပ်လုပ်ခြင်းလုပ်ငန်းအား ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ ၁၆၉/၂၀၁၉ ကို ထုတ်ပေးလိုက်သည်။

၂။ ဝင်းနှင့်ဝင်း ကုမ္ပဏီလီမိတက် (Win & Win Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် အောက်ပါအချက်များကို လိုက်နာဆောင်ရွက်ရမည်-

(က) လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု သက်တမ်းကာလမှာ ၃၀ (သုံးဆယ်) နှစ်နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်ဖြစ်ပါသည်။

(ခ) စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း (ယခင်စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း)နှင့် ဝင်းနှင့်ဝင်း ကုမ္ပဏီလီမိတက် (Win & Win Co., Ltd.) တို့မှ



၆၄

၂၀၁၃ ခုနှစ်၊မေလ ၁ ရက်နေ့တွင် ချုပ်ဆိုခဲ့သည့် စက်ဘီးစက်ရုံ (ကျောက်ဆည်) အား BOT စနစ်ဖြင့် ငှားရမ်းသည့် သဘောတူစာချုပ်အပေါ် သက်တမ်းတိုးမြှင့်သည့်ပထမအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်ပါ မြေငှားသက်တမ်းအတိုင်း လိုက်နာဆောင်ရွက်ရမည်။

(ဂ) ဝင်းနှင့်ဝင်း ကုမ္ပဏီလီမိတက် (Win & Win Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၁၈)၊ ပုဒ်မ ၇၅၊ ၇၇၊ ၇၈ အရ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ပြဋ္ဌာန်းထားသည့်အချက်များနှင့်အညီ ခံစားခွင့်ပြုနိုင်ရန် လျှောက်ထားနိုင်သည်။

(ဃ) ဝင်းနှင့်ဝင်း ကုမ္ပဏီလီမိတက် (Win & Win Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ **ထုတ်လုပ်မှုရည်မှန်းချက်များကိုအနိမ့်ဆုံး ရည်မှန်းချက်များအဖြစ် ထားရှိဆောင်ရွက်** အကောင်အထည်ဖော်ရမည်။

(င) ဝင်းနှင့်ဝင်း ကုမ္ပဏီလီမိတက် (Win & Win Co., Ltd.) အနေဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၆၅ နှင့် နည်း ဥပဒေအခန်း (၂၀) တို့တွင် ပြဋ္ဌာန်းထားသည့် ရင်းနှီးမြှုပ်နှံသူ၏ တာဝန်ဝတ္တရားများနှင့်အညီ လိုက်နာဆောင် ရွက်ရမည်။

(စ) ဝင်းနှင့်ဝင်း ကုမ္ပဏီလီမိတက် (Win & Win Co., Ltd.) သည် လုပ်ငန်းဆောင်ရွက်ရာတွင် သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာနမှ ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့် အညီလိုက်နာဆောင်ရွက်ရမည်။

(ဆ) ဝင်းနှင့်ဝင်း ကုမ္ပဏီလီမိတက် (Win & Win Co., Ltd.) လုပ်ငန်း ဆောင်ရွက်ရာတွင် မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေး အန္တရာယ် ထိန်းသိမ်းကာကွယ်ရေးစနစ်များကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျ ထားရှိဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့် အမိန့်များကိုတိကျစွာ လိုက်နာဆောင်ရွက်ရမည်။

(ဇ) ဝင်းနှင့်ဝင်း ကုမ္ပဏီလီမိတက် (Win & Win Co., Ltd.) သည် ရင်းနှီးမြှုပ်နှံမှုအား လုပ်ငန်းသက်တမ်းကာလအတွင်း အခြားပုဂ္ဂိုလ်တစ်ဦးဦးသို့ တစ်ဆင့်ငှားရမ်းခြင်း၊

ပေါင်းနှံခြင်း၊ အစုရှယ်ယာလွှဲပြောင်းခြင်းနှင့် လုပ်ငန်းလွှဲပြောင်းခြင်းတို့ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၇၂ နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၁၉၁ အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြရမည်။

(ဈ) ဝင်းနှင့်ဝင်း ကုမ္ပဏီလီမိတက် (Win & Win Co., Ltd.) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၆ အရ နှစ်စဉ် ဘဏ္ဍာရေးနှစ် ကုန်ဆုံးပြီး နောက် သုံးလအတွင်း သတ်မှတ်ချက်ပါ အသေးစိတ်များ ပါရှိသည့်နှစ်စဉ်အစီရင်ခံစာအား သတ်မှတ်ပုံစံဖြင့် ကုမ္ပဏီ၏ဝက်(ဘ်)ဆိုဒ် (သို့မဟုတ်) ကော်မရှင်ရုံး၏ဝက်(ဘ်)ဆိုဒ်သို့တင်ပြရမည်။

(ည) ဝင်းနှင့်ဝင်း ကုမ္ပဏီလီမိတက် (Win & Win Co., Ltd.) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၇ အရ လုပ်ငန်း ဆောင်ရွက်နေစဉ်အတွင်း လုပ်ငန်းအစီရင်ခံစာကို သုံးလလျှင် တစ်ကြိမ် ကော်မရှင်က သတ်မှတ်တောင်းခံသည့် ပုံစံဖြင့် တင်ပြရမည်။

၃။ ဝင်းနှင့်ဝင်း ကုမ္ပဏီလီမိတက် (Win & Win Co., Ltd.) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၆၅ (ဃ) အရ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများမှ လိုင်စင်သို့မဟုတ်ခွင့်ပြုမိန့်ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ မှတ်ပုံတင်ရန်လိုအပ်လျှင် ဖြစ်စေ သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်နှင့်အညီ ဆောင်ရွက်ရမည်။

၄။ ဝင်းနှင့်ဝင်း ကုမ္ပဏီလီမိတက် (Win & Win Co., Ltd.) သည် အဆိုပြုလုပ်ငန်းကို အကောင်အထည်ဖော် ဆောင်ရွက်ရာတွင် လုပ်ငန်းသဘာဝအရဖြစ်စေ၊ အခြားလိုအပ်ချက်အရဖြစ်စေ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများမှလိုင်စင် သို့မဟုတ်ခွင့်ပြုမိန့်ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ မှတ်ပုံတင်ရန် လိုအပ်လျှင်ဖြစ်စေ သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်များနှင့်အညီ ဆောင်ရွက်ပြီး နောက်ဆက်တွဲ သဘောတူစာချုပ် ချုပ်ဆိုပြီးပါက မိတ္တူ (၅)စုံစီအား ကော်မရှင်သို့ ပေးပို့ရမည်။

Thaung Tun

(သောင်းထွန်း)
ဥက္ကဋ္ဌ

**ဝင်းနှင့်ဝင်း ကုမ္ပဏီလီမိတက် (Win & Win Co., Ltd.)**
**ဖြန့်ဝေခြင်း**
ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

ပြည်ထဲရေးဝန်ကြီးဌာန
ပြည်ထောင်စုအစိုးရအဖွဲ့ရုံးဝန်ကြီးဌာန
သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန
အလုပ်သမား၊လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန
စက်မှုဝန်ကြီးဌာန
စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန
ရင်းနှီးမြှုပ်နှံမှုနှင့်နိုင်ငံခြားစီးပွားဆက်သွယ်ရေးဝန်ကြီးဌာန
CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ
မန္တလေးတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများ မော်ကွန်းတိုက်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
မန္တလေးတိုင်းဒေသကြီးဦးစီးမှူးရုံး၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ဝင်းနှင့်ဝင်းကုမ္ပဏီလီမိတက် (Win & Win Co., Ltd.)နှင့် စပ်လျဉ်း၍
လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း

| စဉ် | ဆောင်ရွက်သည့် အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ကုမ္ပဏီမှတင် ပြသည့်ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုချက်တင်ပြလာခြင်း | ၁၇-၅-၂၀၁၉ | | |
| ၂ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်း အဝေးသို့တင်ပြခြင်း | ၁၈/၂၀၁၉ ၂၇-၅-၂၀၁၉ | | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်း အဝေးဆုံးဖြတ်ချက်ပြန်ကြားခြင်း | ၂၈-၅-၂၀၁၉ | | |
| ၄ | လုပ်ငန်းလိုအပ်ချက်အရသယံဇာ တနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာနသို့ သဘောထားတောင်းခံခြင်း | ၃-၆-၂၀၁၉ | ၁၃-၆-၂၀၁၉ | |
| ၅ | စီးပွားရေးနှင့်ကူးသန်းရောင်းဝယ် ရေးဝန်ကြီးဌာနသို့သဘောထား တောင်းခံခြင်း | ၄-၆-၂၀၁၉ | ၁၉-၆-၂၀၁၉ | |
| ၆ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်း အဝေးဆုံးဖြတ်ချက်နှင့်အညီပြန် လည် တင်ပြခြင်း | | ၁၁-၆-၂၀၁၉ | |
| ၅ | ကုမ္ပဏီသို့ လက်ခံကြောင်း ပြန်ကြားခြင်း | ၂၁-၆-၂၀၁၉ | | |
| ၆ | အဆိုပြုချက်အားကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | ၂၈-၆-၂၀၁၉ | | |
| | စုစုပေါင်းကြာမြင့်ရက် | (၄၁)ရက် | | |

**အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ်**
**ဆောင်ရွက်ပြီးစီးမှု**

ကုမ္ပဏီအမည် - ဝင်းနှင့်ဝင်းကုမ္ပဏီလီမိတက် (Win & Win Co., Ltd.)

လုပ်ငန်းအမျိုးအစား - CMP စနစ်ဖြင့်ဖိနပ်နှင့်ဖိနပ်ထည့်အိတ်များချုပ်လုပ်ခြင်းလုပ်ငန်း

PATအကြိမ်/နေ့စွဲ - ၁၈/၂၀၁၉ (၂၇-၅-၂၀၁၉)

| စဉ် | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အပေါ် ပြင်ဆင်ရန် အချက်များ | ဆောင်ရွက်ပြီးစီးမှု ပြီး မပြီး | မှတ်ချက် |
|---|---|---|---|
| ၁ | လုပ်ငန်းပြောင်းလဲ ဆောင်ရွက်ခြင်းအတွက် နိုင်ငံတော်သမ္မတရုံးခွင့်ပြုချက် တင်ပြရန်။ | ပြီး | |
| ၂ | ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက် နှင့် အညီ ပြင်ဆင်ချုပ်ဆို ထားသော မြေငှားစာချုပ် တင်ပြရန်။ | ပြီး | |
| ၃ | မြေအထောက်အထားနှင့် စက်ရုံ၏ Layout Plan တင်ပြရန်။ | ပြီး | |
| ၄ | နှစ်စဉ်လျှပ်စစ်ဓါတ်အားလိုအပ်ချက်နှင့် လျှပ်စစ်သွယ်တန်းမှုတို့ အတွက် Single Line Diagram တင်ပြရန်။ | ပြီး | |
| ၅ | နှစ်အလိုက်ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထွက်ရှိမည့် အစီအစဉ် တင်ပြရန်။ | ပြီး | |
| ၆ | CMP Norm, CMP Contract တင်ပြရန်နှင့် တင်ပို့မည့်နိုင်ငံ ဖော်ပြရန်။ | ပြီး | |
| ၇ | စက်ပစ္စည်းစာရင်း တင်ပြရာတွင် HS Code ထည့်သွင်း တင်ပြရန်။ | ပြီး | |
| ၈ | နှစ်အလိုက် နိုင်ငံသားအလုပ်သမားခန့်ထားမှု အစီအစဉ် တင်ပြရန်။ | ပြီး | |
| ၉ | နိုင်ငံခြားငွေယူဆောင်လာမည့်အစီအစဉ်တင်ပြရန်။ | ပြီး | |

ကန့်သတ်

အကြောင်းအရာ။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ဝင်းနှင့်ဝင်းကုမ္ပဏီလီမိတက် (Win & Win Co., Ltd.)မှ CMP စနစ်ဖြင့် ဖိနပ်နှင့်ဖိနပ်ထည့်အိတ်များ ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - ဝင်းနှင့်ဝင်းကုမ္ပဏီလီမိတက် (Win & Win Co., Ltd.) |
| | ရင်းနှီးမြှုပ်နှံသူ | - ဦးဝင်းဆွေ (မြန်မာ) |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု<br>- ဦးဝင်းဆွေ (မြန်မာ) ၅၉.၈၈%<br>- ဒေါ်မြတ်သီတာမြင့် (မြန်မာ) ၃၀.၁၂ %<br>- ဒေါ်မြတ်သက်ထက်ဝင်း (မြန်မာ) ၅ %<br>- ဦးဟိန်းထက်ဝင်း (မြန်မာ) ၅ % |
| | လုပ်ငန်းအမျိုးအစား | - CMPစနစ်ဖြင့်ဖိနပ်နှင့်ဖိနပ်ထည့်အိတ်များချုပ်လုပ်ခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မန္တလေးတိုင်းဒေသကြီး၊ကျောက်ဆည်မြို့နယ်၊စက်ဘီးစက်ရုံ (ကျောက်ဆည်) |
| ၃။ | မြေပိုင်ရှင် | - အမှတ် (၃) အကြီးစားစက်မှုလုပ်ငန်း၊ စက်မှုဝန်ကြီးဌာန |
| | မြေအကျယ်အဝန်း | - မြေဧရိယာ ၂၇.၆၅ ဧကအနက်မှ ၁၃.၈၀ ဧက |
| | အဆောက်အဦ | - မြေနှင့် အဆောက်အဦငှားရမ်းခ တစ်ဧကလျှင် တစ်နှစ် |
| | မြေ/အဆောက်အအုံ ငှားရမ်းခ | ကျပ် ၃,၄၇၁,၈၇၁ နှုန်း |
| | မြေ/အဆောက်အအုံ ငှားရမ်း/ အသုံးပြုခွင့်သက်တမ်း | - ၅၀ နှစ် နှင့် ၁၀ နှစ် ၂ ကြိမ်သက်တမ်းတိုး |
| ၄။ | လုပ်ငန်းသက်တမ်း | - ၃၀ နှစ် ၁၀ နှစ် ၂ ကြိမ်သက်တမ်းတိုး |
| ၅။ | တည်ဆောက်မှုကာလ/ ပြင်ဆင်မှုကာလ | - ၁ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်း ထည့်ဝင်သည့်အမျိုးအစား | - ကျပ် ၂၅၀၀.၀၀ သန်း(အမေရိကန် ဒေါ်လာ ၁.၄၂၅သန်းအပါအဝင်)<br>**(ကျပ်သန်း)** |
| | ငွေသား | ၇၀.၄၃၉ |
| | စက်နှင့် စက်ပစ္စည်း (ပြည်ပ) | ၂၂၀၉.၂၆၁ (အမေရိကန်ဒေါ်လာ ၁.၄၂၅ သန်းအပါအဝင်) |
| | အဆောက်အဦ | ၁၅၀.၀၀၀ |
| | ရုံးအသုံးအဆောင်ပစ္စည်း | ၇၀.၃၀၀ |
| | **စုစုပေါင်း** | ၂၅၀၀.၀၀၀(အမေရိကန် ဒေါ်လာ ၁.၄၂၅သန်းအပါအဝင်) |

၇။ ရောင်းချမည့်နည်းစနစ် — ၁၀၀% ပြည်ပပို့

၈။ ထုတ်လုပ်မှုနှင့်ရောင်းဈေးနှုန်း

| အမျိုးအစား | အရေအတွက်(Pair) | လက်ခနှုန်း(US$/Pair) |
|---|---|---|
| H & M | ၁၇၀၀၀၀ | ၄.၀ |
| Daphne | ၁၅၀၀၀၀ | ၄.၅ |
| Rose | ၁၆၅၀၀၀ | ၄.၀ |
| Nine West | ၁၄၂၀၀၀ | ၃.၅ |
| Talbots | ၁၀၀၀၀၀ | ၃.၂ |

| အမျိုးအစား | အရေအတွက်(Pcs) | လက်ခနှုန်း(US$/Pcs) |
|---|---|---|
| Non Woven Bag | ၅၀၀၀ | ၀.၀၂ |
| Nylon Bag | ၃၀၀၀ | ၀.၀၄ |
| Cloth Bag | ၂၀၀၀ | ၀.၀၅ |
| PU Bag | ၁၀၀၀ | ၀.၈၀ |

၉။ အခြားတင်ပြချက်

| | ပြည်တွင်း | ပြည်ပ |
|---|---|---|
| **ဝန်ထမ်းဦးရေ** | ၁၃၅၀ ဦး | ၁၈ ဦး |
| **အမြင့်ဆုံးလစာ** | ကျပ် ၁,၀၀၀,၀၀၀ | US$ ၈၀၀၀ |
| **အနိမ့်ဆုံးလစာ** | ကျပ် ၁၅၀,၀၀၀ | US$ ၅၀၀၀ |

၁၀။ စိစစ်တင်ပြချက်

- ၁ US$ = ၁,၅၅၀ ကျပ် နှုန်းဖြင့် တွက်ချက်ထားပါသည်။
- ငွေကြေးအထောက်အထားအဖြစ် ဝင်းနှင့်ဝင်းကုမ္ပဏီ လီမိတက်သည် (၃၁-၅-၂၀၁၉) ရက်စွဲဖြင့် Myanma Foreign Trade Bank တွင် အမေရိကန်ဒေါ်လာ ၁၉၃,၁၂၉.၃၈ ရှိကြောင်း အထောက်အထား တင်ပြထားပါသည်။
- ဝင်းနှင့်ဝင်းကုမ္ပဏီလီမိတက် (Win & Win Co., Ltd.)သည် ကုမ္ပဏီမှတ်ပုံတင်အမှတ် 188982476 ကိုလည်း တင်ပြထားပါသည်။
- လူမှုဘဝ သာယာဝပြောရေး တာဝန်ယူမှု (Corporate Social Responsibility) အတွက် အသားတင်အမြတ်ငွေ၏ ၂ % ကို အသုံးပြုမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

| | | |
|---|---|---|
| | | - အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေးမြှင့်တင်မည့် ကဏ္ဍတွင်ပါဝင်ပြီး ISIC ၁၅၂၀ တွင် အကျုံးဝင်ပါသည်။<br>- စက်မှုဝန်ကြီးဌာနမှ ကုမ္ပဏီသည် မူလလုပ်ငန်းကို ပြောင်းလဲဆောင်ရွက်ခြင်း မဟုတ်ဘဲ မူလလုပ်ငန်းအပြင် ယခုအဆိုပြုသောလုပ်ငန်းကို ထပ်တိုးဆောင်ရွက် မည်ဖြစ်ခြင်း၊ ယင်းလုပ်ငန်း ဆောင်ရွက်ခြင်းအတွက် ပြင်ဆင်ချက်စာချုပ် (မူကြမ်း) ကို ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ သဘောထားမှတ်ချက် တောင်းခံခဲ့ရာတွင် နိုင်ငံတော်သမ္မတရုံးသို့ တင်ပြတောင်းခံရန် လိုအပ်သည်ဟု မှတ်ချက်မပြု ခြင်းတို့ကြောင့် နိုင်ငံတော်သမ္မတရုံးသို့ တင်ပြဆောင်ရွက်မှုမပြုခဲ့ပါဟု တင်ပြထားပါသည်။<br>- CMPစနစ်ဖြင့် ဖိနပ်နှင့်ဖိနပ်ထည့်အိတ်များ ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်အတွက် စက်မှုဝန်ကြီးဌာန၊ အမှတ် ၃ အကြီးစား စက်မှုလုပ်ငန်းနှင့် ဝင်းနှင့်ဝင်းကုမ္ပဏီလီမိတက် (Win & Win Co., Ltd.)တို့ ပြင်ဆင်ချုပ်ဆိုမည့် စာချုပ် (မူကြမ်း) တင်ပြထားပါသည်။ |

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊မရက-၃/ခ-၀၄၀/၂၀၁၉( ၀၇၉ )

ရက်စွဲ၊ ၂၀၁၉ ခုနှစ် ဇွန်လ ၂၄ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ဝင်းနှင့်ဝင်းကုမ္ပဏီလီမိတက် (Win & Win Co., Ltd.)မှ CMP စနစ်ဖြင့် ဖိနပ်နှင့်ဖိနပ်ထည့်အိတ်များ ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံသား ဦးဝင်းဆွေမှ ၅၉.၈၈%၊ ဒေါ်မြတ်သီတာမြင့်မှ ၃၀.၁၂%၊ ဒေါ်မြတ်သက်ထက်ဝင်းမှ ၅% နှင့် ဦးဟိန်းထက်ဝင်းမှ ၅% အသီးသီးထည့်ဝင်၍ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ဝင်းနှင့်ဝင်းကုမ္ပဏီလီမိတက် (Win & Win Co., Ltd.) တည်ထောင်ကာ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ စက်ဘီးစက်ရုံ (ကျောက်ဆည်)တွင် မြေဧရိယာ ၂၇.၆၅ ဧကအနက်မှ ၁၃.၈၀ ဧက အားငှားရမ်း၍ CMP စနစ်ဖြင့် ဖိနပ်နှင့်ဖိနပ်ထည့်အိတ်များချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် စက်မှုဝန်ကြီးဌာနမှတစ်ဆင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင်အမှတ်(၃)အကြီးစား စက်မှုလုပ်ငန်းနှင့် ချုပ်ဆိုမည့် မြေငှားစာချုပ်(မူကြမ်း)၊ မြေဆိုင်ရာအထောက်အထား၊ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏သဘောထားမှတ်ချက်၊ ထုတ်လုပ်သည့်လုပ်ငန်းစဉ်နှင့် ပစ္စည်းနမူနာဓာတ်ပုံများအားပူးတွဲ တင်ပြထားပါသည်။ တည်ဆောက်ရေးကာလမှာ ၁ နှစ် ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၃။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ ကျပ် ၂၅၀၀.၀၀၀ သန်း (အမေရိကန်ဒေါ်လာ ၁.၄၂၅သန်းအပါအဝင်) ဖြစ်ပြီး ထည့်ဝင်မှုများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(ကျပ်သန်း)

| | |
|---|---|
| ငွေသား | ၇၀.၄၃၉ |
| စက်နှင့်စက်ပစ္စည်း(ပြည်ပ) | ၂၂၀၉.၂၆၁(အမေရိကန် ဒေါ်လာ ၁.၄၂၅သန်းအပါအဝင်) |
| အဆောက်အဦကုန်ကျစရိတ် | ၁၅၀.၀၀၀ |
| ရုံးအသုံးအဆောင်ပစ္စည်း | ၇၀.၃၀၀ |
| **စုစုပေါင်း** | ၂၅၀၀.၀၀၀(အမေရိကန် ဒေါ်လာ ၁.၄၂၅သန်းအပါအဝင်) |

ကန့်သတ်

၄။ လုပ်ငန်းဆောင်ရွက်ရန်အတွက်ပထမနှစ်တွင် ပြည်တွင်းဝန်ထမ်း ၁၃၅၀ ဦးနှင့် ပြည်ပဝန်ထမ်း ၁၈ ဦးခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၁,၀၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၅၀၀၀ နှင့် အမြင့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၈၀၀၀ ဖြစ်ပါသည်။

၅။ လုပ်ငန်းမှထွက်ရှိသော ဖိနပ်နှင့်ဖိနပ်ထည့်အိတ်များကို ပြည်ပသို့ ၁၀၀% တင်ပို့မည် ဖြစ်ပြီး ပုံမှန်နှစ် (ပထမနှစ်) ၏ ထုတ်လုပ်မှုအရေအတွက်နှင့် CMP လက်ခနှုန်းများမှာ အောက်ပါ အတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအစား | အရေအတွက် (Pair/ Pcs) | CMP လက်ခနှုန်း (US$/ Pair/ Pcs) |
|---|---|---|---|
| (က) | H&M(Pair) | ၁၇၀,၀၀၀ | ၄.၀ |
| (ခ) | Daphne(Pair) | ၁၅၀,၀၀၀ | ၄.၅ |
| (ဂ) | Rose(Pair) | ၁၆၅,၀၀၀ | ၄.၀ |
| (ဃ) | Nine West(Pair) | ၁၄၂,၀၀၀ | ३.၅ |
| (င) | Talbots(Pair) | ၁၀၀,၀၀၀ | ३.၂ |
| (စ) | Non Woven Bag(Pcs) | ၅၀၀၀ | ၀.၀၂ |
| (ဆ) | Nylon Bag(Pcs) | ३၀၀၀ | ၀.၀၄ |
| (ဇ) | Cloth Bag(Pcs) | ၂၀၀၀ | ၀.၀၅ |
| (ဈ) | PU Bag(Pcs) | ၁၀၀၀ | ၀.၈၀ |

၆။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာနများမှ အောက်ပါအတိုင်း သဘောထား မှတ်ချက် ပြန်ကြားထားပါသည်-

(က) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်း အဖွဲ့** မှ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း (Environmental Impact Assessment-EIA) နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) အား ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့် အညီအစီရင်ခံစာ ရေးသားတင်ပြရန်

သဘောထားပြန်ကြားထားပါသည်။ **ကုမ္ပဏီမှ သဘောထားမှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်းတင်ပြထားပါသည်။** **နောက်ဆက်တွဲ(က)**

(ခ) **စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုရန် တင်ပြလာမှုနှင့်ပတ်သက်၍ ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ(ခ)**

၇။ ငွေကြေးအထောက်အထားအဖြစ် ဝင်းနှင့်ဝင်းကုမ္ပဏီလီမိတက်သည် (၃၁-၅-၂၀၁၉) ရက်စွဲဖြင့် Myanma Foreign Trade Bank တွင် အမေရိကန်ဒေါ်လာ ၁၉၃,၁၂၉.၃၈ ရှိကြောင်း အထောက်အထား တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၈။ အောက်ပါအတိုင်းတင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့်ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) စက်ရုံ၌ အလုပ်သမားများအတွက် သက်သာချောင်ချိရေးအစီအစဉ်များ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးစီမံချက်၊ လေသန့်စင်စနစ်၊ Corporate Social Responsibility (CSR) အတွက် ဆောင်ရွက်မည့်အစီအစဉ်နှင့် မီးဘေးကာကွယ်ရေးစီမံချက်များ တင်ပြထားပါသည်။

(ဂ) အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၉ ခုနှစ် မေလ ၂၇ ရက်နေ့တွင် ကျင်းပပြုလုပ်သော (၁၈/၂၀၁၉) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြဆွေးနွေးခဲ့ပါသည်။

(ဃ) လုပ်ငန်းတိုးချဲ့ ဆောင်ရွက်ခြင်းအတွက် ရှေ့နေချုပ်ရုံးသဘောထားမှတ်ချက်နှင့် အညီ ပြင်ဆင်ထားသည့် မြေငှားစာချုပ် (မူကြမ်း) ကိုလည်းတင်ပြထားပါသည်။

(င) စက်မှုဝန်ကြီးဌာနမှ ကုမ္ပဏီသည် မူလလုပ်ငန်းကို ပြောင်းလဲဆောင်ရွက်ခြင်း မဟုတ်ဘဲ မူလလုပ်ငန်းအပြင် ယခုအဆိုပြုသောလုပ်ငန်းကို ထပ်တိုးဆောင်ရွက်မည်ဖြစ်ခြင်း၊ ယင်းလုပ်ငန်း ဆောင်ရွက်ခြင်းအတွက် ပြင်ဆင်ချက်စာချုပ် (မူကြမ်း) ကို ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ သဘောထားမှတ်ချက် တောင်းခံခဲ့ရာတွင် နိုင်ငံတော်သမ္မတရုံးသို့ တင်ပြတောင်းခံရန် လိုအပ်သည်ဟု မှတ်ချက်မပြု

ခြင်းတို့ကြောင့် နိုင်ငံတော်သမ္မတရုံးသို့ တင်ပြဆောင်ရွက်မှုမပြုခဲ့ပါဟု တင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၉။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ဝင်းနှင့်ဝင်းကုမ္ပဏီလီမိတက် (Win & Win Co., Ltd.) မှ CMP စနစ်ဖြင့် ဖိနပ်နှင့်ဖိနပ်ထည့်အိတ်များ ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုလွှာတင်ပြခြင်း ကိစ္စနှင့် စပ်လျဉ်း၍ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ( )
(သန့်စင်လွင်၊ခေတ္တအတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ

နောက်ဆက်တွဲ-က

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁ (၃၇/၁၉ )
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ ဇွန်လ ၁၃ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

M.561
19/6/19

အကြောင်းအရာ။ **Win & Win Co., Ltd. မှ CMP စနစ်ဖြင့် ဖိနပ်နှင့်ဖိနပ်ထည့်အိတ်များချုပ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏၃-၆-၂၀၁၉ရက်စွဲပါစာအမှတ်၊မရက-၃/ခ-၀၄၀/၂၀၁၉ (၀၆၄)

၁။ မြန်မာနိုင်ငံသားဦးဝင်းဆွေမှ ၅၉.၈၈%၊ ဒေါ်မြသီတာမြင့်မှ ၃၀.၁၂%၊ ဒေါ်မြတ်သက်ထက်ဝင်းမှ ၅% နှင့် ဦးဟိန်းထက်ဝင်းမှ ၅% အသီးသီးထည့်ဝင်၍ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ဝင်းနှင့်ဝင်းကုမ္ပဏီလီမိတက်(Win& Win Co., Ltd.) တည်ထောင်ကာ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ စက်ဘီးစက်ရုံ (ကျောက်ဆည်) တွင် မြေဧရိယာ ၂၇.၆၅ ဧကအနက်မှ ၁၃.၈၀ ဧက (၅၅,၈၄၆.၆၁ စတုရန်းမီတာ) ကို ငှားရမ်း၍ CMP စနစ်ဖြင့် ဖိနပ်နှင့်ဖိနပ်ထည့်အိတ်များချုပ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသောအဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၃၀) နှစ်ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ်ဆောင်ရွက်မည်ဖြစ်ကာ၊ တည်ဆောက်ရေးကာလမှာ (၁) နှစ် ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအားမြေ (၅၅,၈၄၆.၆၁စတုရန်းမီတာ) ရှိ ရှိရင်းစွဲစက်ရုံ အဆောက်အဦအားပြုပြင်မွမ်းမံ၍ ဖိနပ်နှင့်ဖိနပ်ထည့်အိတ်များချုပ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းအတွက် စက်မှုဝန်ကြီးဌာန၊ အမှတ် (၃) အကြီးစားစက်မှုလုပ်ငန်းနှင့် Win & Win Co., Ltd. တို့အကြားချုပ်ဆိုထားသည့် စက်ဘီးစက်ရုံ (ကျောက်ဆည်) အား ငှားရမ်းသည့် မူလသဘောတူစာချုပ်နှင့် လုပ်ငန်းတိုးချဲ့ရန် ချုပ်ဆိုထားသည့်နောက်ဆက်တွဲသဘောတူစာချုပ်တို့ဖော်ပြပါရှိပါကြောင်း၊

(ဃ) ဝန်ထမ်းများသက်သာချောင်ချိရေးအစီအစဉ်များ၊ မီးဘေးကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်းထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

(င) လုပ်ငန်းမှရရှိလာမည့်အသားတင်အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(စ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ ထုတ်ပြန်ထားသောဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့်ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်သွားမည် ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) Win & Win Co., Ltd. မှ CMP စနစ်ဖြင့် ဖိနပ်နှင့် ဖိနပ်ထည့်အိတ်များချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အဆောက်အဦများ ပြုပြင်မွမ်းမံရာ၌ မြေပြုပြင်ခြင်းနှင့်ဆောက်လုပ်ရေးလုပ်ငန်းခွင်မှ ထွက်ရှိလာမည့် ဖုန်မှုန့်များ၊ တုန်ခါမှုများ၊ လုပ်ငန်းသုံး ယာဉ်/ယန္တရားများမှ ထွက်ရှိလာမည့် စက်ဆီ၊ချောဆီ၊ အခိုးအငွေ့များကြောင့် အနီးပတ်ဝန်းကျင်ရှိ လေထု၊ မြေထုနှင့် ရေထုညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း၊

(ခ) တည်ဆောက်ရေးလုပ်ငန်းသုံး ယာဉ်ယန္တယားများနှင့် စက်ပစ္စည်းများမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ရှိမြေထု၊ ရေထုနှင့် လေထုညစ်ညမ်းခြင်း၊

(ဂ) အလုပ်သမားများ၏ စွန့်ပစ်ပစ္စည်းများနှင့် မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင် ညစ်ညမ်းခြင်း၊

(ဃ) လုပ်ငန်းလည်ပတ်ရာတွင် လိုအပ်သည့်ရေအား စနစ်တကျ ထုတ်ယူသုံးစွဲမှုမရှိခြင်းကြောင့် မြေအောက်ရေအရည်အသွေးနှင့် မျက်နှာပြင် နိမ့်ကျခြင်း၊

(င) အဆိုပြုလုပ်ငန်းမှ အသုံးပြုမည့် ကုန်ကြမ်းပစ္စည်းများသည် ဆွေးမြေ့ပျက်စီးရန်အချိန်ကြာမြင့်သဖြင့် ပတ်ဝန်းကျင် ထိခိုက်ပျက်စီးမှုဖြစ်ပေါ်နိုင်ခြင်း၊ လုပ်ငန်းစဉ်အဆင့်တိုင်းတွင်ထွက်ရှိလာမည့် သားရေဖြတ်စများ၊ အမှုန်အမွှားများကြောင့် ပတ်ဝန်းကျင်လေထုနှင့် မြေထုညစ်ညမ်းမှုများဖြစ်ပေါ်နိုင်ခြင်း၊ အစဖြတ်ခြင်း၊ ပုံစံညှပ်ခြင်း၊ အိတ်ချုပ်လုပ်ခြင်းလုပ်ငန်းအဆင့်ဆင့်တွင် စက်များအသုံးပြု၍ ဆောင်ရွက်မည်ဖြစ်သဖြင့် အသံဆူညံခြင်း၊ သားရေများကိုဆေးဆိုး၊ ဆေးရိုက်ရာမှ ထွက်ရှိလာသော စွန့်ပစ်အရည်များကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှု ပြဿနာများ ဖြစ်ပေါ်လာ စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍Win & Win Co., Ltd. မှ CMP စနစ်ဖြင့် ဖိနပ်နှင့်ဖိနပ်ထည့်အိတ်များချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေး

ဆိုင်ရာဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည် -

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက် အသားတင်အမြတ်ငွေ၏ (၂%) ကို အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျလိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့် အညီ ပြုစု ဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် ၄၅၊ ၄၆ တို့အရစီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း **(Environmental Impact Assessment-EIA)** မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့် တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက် ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် ၄၇ မှ အပိုဒ် ၅၄ ထိဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာနှင့် ဆောင်ရွက်မည့် လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တင်ပြ အတည်ပြုချက် ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကိုဆောင်ရွက်ပြီး သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာနသို့ ရေးဆွဲ တင်ပြရန်၊

(စ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံး ဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက်သုံးစွဲမည့် ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီ**

**အစဉ်** (**Environmental Management Plan-EMP**) ကို ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့် အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့် အစီအစဉ်အလိုက် လိုအပ်သည့် ပုံစံများ ဖြည့်စွက်၍ တစ်ပါတည်း တင်ပြရန်၊

(ဇ) သက်ဆိုင်ရာတိုင်းဒေသကြီး အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူ ဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ မန္တလေးတိုင်းဒေသကြီး
ရုံးလက်ခံ

NPT-5658
20.6.19

DDG.2 ၉
21/6/19

နောက်ဆက်တွဲ-ခ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ် ၊ စက - ၁၄/ ၄ - ၁၂ / ၂၀၁၉ ( ၂၆ )
ရက်စွဲ ၊ ၂၀၁၉ ခုနှစ် ၊ ဇွန်လ ၁၉ ရက်

M-582
24/6/19

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ CMP လုပ်ငန်းဆောင်ရွက်ခြင်းနှင့် ကုန်ကြမ်းတင်သွင်းခြင်းအပေါ် သဘောထား မှတ်ချက်ပြန်ကြားခြင်းကိစ္စ

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၄- ၆- ၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက - ၃/ ခ - ၀၄၀/ ၂၀၁၉ (၀၆၇)

၁။ Win & Win Co.,Ltd. သည် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ကုမ္ပဏီတည်ထောင်ကာ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ စက်ဘီးစက်ရုံ (ကျောက်ဆည်) တွင် မြေဧရိယာ ၂၇.၆၅ ဧကအနက်မှ ၁၃.၈၀ ဧက အား ငှားရမ်း၍ CMP စနစ်ဖြင့် ဖိနပ်နှင့် ဖိနပ်ထည့်အိတ်များ ချုပ်လုပ်ခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြထားမှုနှင့်ပတ်သက်၍ ကုန်ကြမ်းတင်သွင်းခြင်းသည် လုပ်ငန်းနှင့် သင့်လျော်မှု ရှိ/မရှိ သဘောထား မှတ်ချက်အား ပြန်ကြားပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ Win & Win Co.,Ltd. မှ ဖိနပ်နှင့် ဖိနပ်ထည့်အိတ်များ ချုပ်လုပ်ခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုနှင့်ပတ်သက်၍ ကန့်ကွက်ရန်မရှိပါကြောင်းနှင့် CMP စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင် ဆက်စပ်ဌာနများ၏ သတ်မှတ်လုပ်ထုံးလုပ်နည်းများကို လိုက်နာဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ဖိနပ်နှင့် အိတ်ချုပ်လုပ်ငန်း စက်ရုံအတွက် လိုအပ်သော စက်ပစ္စည်းကိရိယာများကို ပြည်ပမှတင်သွင်းခြင်း၊ CMP စနစ်ဖြင့် ဖိနပ်နှင့် ဖိနပ်ထည့် အိတ်များချုပ်လုပ်ပြီး ပြည်ပသို့ ပြန်လည်တင်ပို့ခြင်းတို့အတွက် စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာနအနေဖြင့် သတ်မှတ်ထုတ်ပြန်ထားသော ဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ပူးပေါင်းပါဝင်ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး ( )
( အောင်စိုး ၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို

- ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန



ဒု-ညွှန်ချုပ်(၁)ဝင်စာ
စာအမှတ် ၁၁၄
ရက်စွဲ ၁၃-၆-၁၉
အချိန်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# စက်မှုဝန်ကြီးဌာန

NPT-2549
12.6.19

စာအမှတ်၊ ၈- စမ(၂)၂၀၁၈-၂၀၁၉ (၂၉၈၉)
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ ဇွန်လ ၁၁ ရက်

သို့

M.558
14/6/19

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ Win & Win Co.,Ltd. မှ CMP စနစ်ဖြင့် ဖိနပ်နှင့် ဖိနပ်ထည့်အိတ်များ ချုပ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်လိုခြင်းနှင့်စပ်လျဉ်း၍ အစည်းအဝေး ဆုံးဖြတ်ချက်နှင့်အညီ လိုအပ်သည်များ ပြန်လည်ပေးပို့ခြင်း

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၈.၅.၂၀၁၉ ရက်စွဲပါ စာအမှတ်၊ မရက - ၃/ ခ -၀၂၀/ ၂၀၁၉ (၀၆၃)

၁။ စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း၊ စက်ဘီးစက်ရုံ(ကျောက်ဆည်) အား ငှားရမ်းဆောင်ရွက်လျက်ရှိသည့် Win & Win Co.,Ltd. မှ CMP စနစ်ဖြင့် ဖိနပ်နှင့် ဖိနပ်ထည့် အိတ်များချုပ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်လိုခြင်းနှင့်စပ်လျဉ်း၍ စက်မှုဝန်ကြီးဌာနက ထောက်ခံချက် ပေးပို့ခဲ့ခြင်းအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၁၈/ ၂၀၁၉) ကြိမ်မြောက်အစည်းအဝေးဆုံးဖြတ်ချက်များနှင့်အညီ လိုအပ်သည်များ ဆောင်ရွက်ပြီး ပြန်လည် တင်ပြပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ Win & Win Co.,Ltd. အနေဖြင့် CMP စနစ်ဖြင့် ဖိနပ်နှင့် ဖိနပ်ထည့်အိတ်များ ချုပ်လုပ် ခြင်းလုပ်ငန်းဆောင်ရွက်ရာတွင် စက်ရုံရှိ လက်ရှိအဆောက်အဦများအား ဖိနပ်လုပ်ငန်းနှင့် သင့်လျော်အောင် ပြုပြင်မွမ်းမံဆောင်ရွက်မည်ဖြစ်ခြင်း၊ ကုမ္ပဏီမှ မူလလုပ်ငန်းကို ပြောင်းလဲ ဆောင်ရွက်ခြင်းမဟုတ်ဘဲ မူလလုပ်ငန်းအပြင် ယခုအဆိုပြုသောလုပ်ငန်းကို ထပ်တိုးဆောင်ရွက်မည် ဖြစ်ခြင်း၊ ယင်းလုပ်ငန်းဆောင်ရွက်ခြင်းအတွက် ပြင်ဆင်ချက်စာချုပ် (မူကြမ်း)ကို ပြည်ထောင်စု ရှေ့နေချုပ်ရုံးသို့ သဘောထားမှတ်ချက်တောင်းခံခဲ့ရာတွင် နိုင်ငံတော်သမ္မတရုံးသို့ တင်ပြခွင့်ပြုချက် တောင်းခံရန် လိုအပ်သည်ဟု မှတ်ချက်မပြုခဲ့ခြင်းတို့ကြောင့် နိုင်ငံတော်သမ္မတရုံးသို့ တင်ပြ ဆောင်ရွက်မှုမပြုခဲ့ပါ။

၃။ သို့ပါ၍ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း၊ စက်ဘီးစက်ရုံ(ကျောက်ဆည်)တွင် Win & Win Co.,Ltd. မှ CMP စနစ်ဖြင့် ဖိနပ်နှင့်ဖိနပ်ထည့်အိတ်များချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်လိုခြင်း နှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၁၈/ ၂၀၁၉)

ကြိမ်မြောက်အစည်းအဝေးမှ ဆုံးဖြတ်ခဲ့သည့် အောက်ပါအချက်များ၏ လိုအပ်သည့်အချက်အလက်များအား ပူးတွဲပေးပို့အပ်ပါသည်-

(က) ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့် သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်ထားသော နောက်ဆက်တွဲ သဘောတူစာချုပ်(မူကြမ်း) — ပူးတွဲ(က)

(ခ ) စက်ရုံ၏ Layout Plan နှင့် မြေအထောက်အထားများ — ပူးတွဲ(ခ)

(ဂ ) နှစ်စဉ်လျှပ်စစ်ဓာတ်အားလိုအပ်ချက် 3,600 MWh/ Year အတွက် လျှပ်စစ်သွယ်တန်းရန် Single Line Diagram — ပူးတွဲ(ဂ)

(ဃ) နှစ်အလိုက်ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထွက်ရှိမည့်အစီအစဉ် — ပူးတွဲ(ဃ)

(င ) ထုတ်လုပ်မည့်ကုန်ပစ္စည်းများ၏ CMP Norm နှင့် CMP Contract — ပူးတွဲ(င)

(စ ) တင်သွင်းမည့်စက်ပစ္စည်းများ၏ HS Code — ပူးတွဲ(စ)

(ဆ) နှစ်အလိုက် နိုင်ငံသားအလုပ်သမားခန့်ထားမှုအစီအစဉ် — ပူးတွဲ(ဆ)

(ဇ ) နိုင်ငံခြားငွေ ယူဆောင်လာမည့်အစီအစဉ် — ပူးတွဲ(ဇ)

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( တင်ဦး၊ ဒုတိယအမြဲတမ်းအတွင်းဝန် )

မိတ္တူကို

အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း



**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**စက်မှုဝန်ကြီးဌာန**

စာအမှတ်၊ ၈- စမ(၂)၂၀၁၈-၂၀၁၉ ( ၂၆၆၃ )
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ မေလ ၁၆ ရက်

မ:464
17/5/19

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **စက်ဘီးစက်ရုံ(ကျောက်ဆည်)တွင် CMP စနစ်ဖြင့် ဖိနပ်နှင့် ဖိနပ်ထည့်အိတ်များ ထုတ်လုပ်ခြင်းလုပ်ငန်းအား Win & Win Co.,Ltd. မှ ထပ်တိုးဆောင်ရွက်လိုခြင်းနှင့်စပ်လျဉ်း၍ ထောက်ခံချက်ပေးပို့ခြင်း**

ရည် ညွှန်း ချက် ။ (၁) စက်မှုဝန်ကြီးဌာန၏ ၄.၃.၂၀၁၉ ရက်စွဲပါ စာအမှတ်၊ ၈- စမ(၂)၂၀၁၈-၂၀၁၉ ( ၁၇၉၇ )

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၈.၃.၂၀၁၉ ရက်စွဲပါ စာအမှတ်၊ မရက-၉/ မ-ထွေ/ ၂၀၁၉ (၁၄၁၁)

၁။ စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း၊ စက်ဘီးစက်ရုံ(ကျောက်ဆည်) မြေ (၂၇.၆၅)ဧကအား Win & Win Co.,Ltd. သို့ ငှားရမ်းခွင့်ကို ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၂၃/၂၀၁၃)အရလည်းကောင်း၊ စက်ရုံတွင် ဆေးရုံသုံးသံထည်ကုတင်နှင့် ပရိဘောဂထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့် အမှတ်၊ မနသ ၁၀၇၆/ ၂၀၁၅ နှင့် သစ်ပါးလွှာထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်အမှတ်၊ မနသ ၁၀၉၀/ ၂၀၁၅ အရလည်းကောင်း ခွင့်ပြုခဲ့ပါသဖြင့် တစ်နှစ်လျှင် ငှားရမ်းခငွေကျပ် (၉၆.၀၀)သန်းဖြင့် ၁.၅.၂၀၁၃ ရက်နေ့မှ ၃၀.၄.၂၀၆၃ အထိ (၅၀+၁၀+၁၀)နှစ်ဖြင့် စာချုပ် ချုပ်ဆိုဆောင်ရွက်လျက်ရှိပါသည်။

၂။ ကုမ္ပဏီနှင့် ချုပ်ဆိုထားသည့် မူလစာချုပ်၏ **"အငှားချထားခြင်းခံရသူ၏ တာဝန်နှင့် လုပ်ပိုင်ခွင့်များ"** ခေါင်းစဉ်ပါ အပိုဒ် ၁၂(ခ)တွင် **"ငှားရမ်းခွင့်ရရှိထားသော စက်ဘီးစက်ရုံ(ကျောက်ဆည်)ရှိ မြေနှင့်အဆောက်အဦတွင် ကနဦးတင်ပြထားသော လုပ်ငန်းများအပြင် ဥပဒေနှင့် မငြိစွန်းသည့် အခြားလုပ်ငန်းများကို တိုးချဲ့လုပ်ကိုင်လိုပါက "အငှားချထားသူ" သို့ ညှိနှိုင်းဆောင်ရွက်ခွင့်ရှိသည်"** ဟူသည့် စာချုပ်ပါစည်းကမ်းအရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုခဲ့သည့် စက်ဘီးထုတ်လုပ်ခြင်းလုပ်ငန်းနှင့် ဆေးရုံသုံးကုတင်ထုတ်လုပ်ခြင်း လုပ်ငန်းများ ဆောင်ရွက်ခဲ့ပြီး သစ်ပါးလွှာထုတ်လုပ်ခြင်းလုပ်ငန်းအား ငွေကျပ် (၁,၁၀၀)သန်းခန့် ရင်းနှီးမြှုပ်နှံဆောင်ရွက်ခဲ့ပါသည်။

၃။ Win & Win Co.,Ltd. အနေဖြင့် သစ်ပါးလွှာ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ရန် ခွင့်ပြုထားသည့် မြေ(၁၅.၂၆)ကေအနက် မြေ(၅.၂၁) ကေကိုလည်းကောင်း၊ ဆေးရုံသုံးသံထည် ကုတင်နှင့် ပရိဘောဂထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန် ခွင့်ပြုထားသည့် မြေ(၁၂.၃၉)ကေအနက် မြေ(၈.၅၉)ကေကိုလည်းကောင်း လျှော့ချ၍ စုစုပေါင်းမြေ(၁၃.၈)ကေပေါ်တွင် Shaingahi Zhanxia Leather Wear Co.,Ltd. နှင့် အကျိုးတူပူးပေါင်း၍ CMP စနစ်ဖြင့် ဖိနပ်ချုပ်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပေးနိုင်ပါရန် စက်မှုဝန်ကြီးဌာနမှ ရည်ညွှန်း(၁)ပါစာဖြင့် ထောက်ခံပေးပို့ခဲ့ခြင်းအပေါ် အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်းနှင့် ကုမ္ပဏီတို့အကြား လက်ရှိချုပ်ဆိုထားသော မြေငှားစာချုပ်အား ပြင်ဆင်ချုပ်ဆိုရေး လုပ်ထုံးလုပ်နည်းနှင့်အညီ ဆောင်ရွက်ရန်လိုအပ်ကြောင်းနှင့် မြေငှားစာချုပ်ပြင်ဆင်ချုပ်ဆိုရန် စာချုပ်(မူကြမ်း)အတည်ပြုပြီးပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ စက်မှုဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက်ပေးပို့ရန်ဖြစ်ကြောင်း ရည်ညွှန်း(၂) ပါစာဖြင့် ပြန်ကြားခဲ့ပါသည်။

၄။ ယခုအခါ ကုမ္ပဏီအနေဖြင့် စက်ရုံငှားရမ်းစဉ်က လွှဲပြောင်းရယူခဲ့သော စက်ရုံလက်ကျန် စက်ဘီးကုန်ချော၊ တစ်ဝက်တစ်ပျက်ကုန်ချောနှင့် ကုန်ကြမ်းပစ္စည်းများအား ဝန်ကြီးဌာနအကူအညီဖြင့် လေလံတင်ထုခွဲရောင်းချခဲ့ရာ ၎င်းပစ္စည်းများထားသော ဂိုဒေါင်များတွင် နေရာလွတ်များရှိလာမည်ဖြစ်ပြီး အဆိုပါလစ်လပ်သွားသော နေရာများတွင် မူလလုပ်ငန်းအပြင် မူလစာချုပ်ပါစည်းကမ်းအပိုဒ်၊ ၁၂ (ခ)နှင့် အပိုဒ်၊ ၁၂ (င)တို့အရ CMP စနစ်ဖြင့် ဖိနပ်နှင့် ဖိနပ်ထည့်အိတ်များ ထုတ်လုပ်ခြင်းလုပ်ငန်းကို စုစုပေါင်း USD (5.1)သန်း ရင်းနှီးမြှုပ်နှံပြီး ထပ်တိုးဆောင်ရွက်သွားလိုကြောင်း၊ ယင်းလုပ်ငန်းဆောင်ရွက်ရန် စက်ရုံရှိ အဆောက်အဦ(၅)လုံးအား အသစ်ထပ်မံတိုးချဲ့ခြင်းမပြုဘဲ မူလအဆောက်အဦများအတွင်းရှိ ဂိုဒေါင်အလွတ်များကိုသာ ဖိနပ်ချုပ်လုပ်ငန်းနှင့် သင့်လျော်အောင် ပြုပြင်မွမ်းမံ၍ လိုအပ်သည့်စက်ပစ္စည်းများ တပ်ဆင်သုံးစွဲသွားမည်ဖြစ်ပါကြောင်းနှင့် ပတ်ဝန်းကျင်ထိခိုက်မှုမရှိစေရေး အစီအမံများ ချမှတ်ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း တင်ပြလာပါသည်။

၅။ ကုမ္ပဏီအနေဖြင့် စက်ဘီးစက်ရုံ(ကျောက်ဆည်)တွင် မူလလုပ်ငန်းများအပြင် ဖိနပ်နှင့် ဖိနပ်ထည့်အိတ်များ ထုတ်လုပ်ခြင်းလုပ်ငန်းအား ထပ်တိုးဆောင်ရွက်နိုင်ရေးနှင့် ထပ်တိုးဆောင်ရွက်မည့် ဖိနပ်ချုပ်လုပ်ငန်းမှ ရရှိမည့်အကျိုးအမြတ်၏ (၃%)နှင့် ညီမျှသော ငွေ (သို့မဟုတ်) တစ်နှစ်လျှင် ငွေကျပ် (၁၂၀)သိန်း [လစဉ် ငွေကျပ် (၁၀)သိန်းအနက်] များရာတန်ဖိုးကို စက်မှုဝန်ကြီးဌာနသို့ Profit Sharing အဖြစ် ခွဲဝေပေးသွင်းခွင့်ပြုပါရန်နှင့် ယင်းလုပ်ငန်းထပ်တိုးဆောင်ရွက်နိုင်ရေးအတွက် နောက်ဆက်တွဲစာချုပ် ချုပ်ဆိုရေးကိစ္စကို စက်မှုဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီ အစည်းအဝေးအမှတ်စဉ် (၁၄/ ၂၀၁၈-၂၀၁၉)မှ သဘောတူခွင့်ပြုခဲ့ပါသည်။

၆။ ကုမ္ပဏီမှ ငှားရမ်းခွင့်ရရှိထားသော စက်ရုံမြေ(၂၇.၆၅)ကေအနက် သစ်ပါးလွှာထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို မြေ(၁၀.၁၅)ကေတွင်လည်းကောင်း၊ ဆေးရုံသုံးသံထည်ကုတင်နှင့် ပရိဘောဂ ထုတ်လုပ်ခြင်းလုပ်ငန်းကို မြေ(၃.၈)ကေတွင်လည်းကောင်း ဆောင်ရွက်လျက်ရှိပြီး ကျန်မြေ(၁၃.၈) ကေပေါ်ရှိ အဆောက်အဦ(၅)လုံးပေါ်တွင် CMP စနစ်ဖြင့် ဖိနပ်နှင့် ဖိနပ်ထည့်သည့်အိတ်များ ပြည်ပသို့ တင်ပို့ခြင်းလုပ်ငန်းကို ဆောင်ရွက်မည်ဖြစ်ပါသည်။

၇။ သို့ဖြစ်ပါ၍ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း၊ စက်ဘီးစက်ရုံ(ကျောက်ဆည်)တွင် Win & Win Co.,Ltd. မှ မူလလုပ်ငန်းအပြင် ဖိနပ်နှင့် ဖိနပ်ထည့်အိတ်များ ထုတ်လုပ်ခြင်းလုပ်ငန်းအား ထပ်တိုးဆောင်ရွက်ခွင့်ပြုနိုင်ပါရန် ထောက်ခံပေးပို့အပ်ပါသည်။

ပူးတွဲ။ လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုချက် (၁)စုံ

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ကိုကိုလွင်၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို

အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ

ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသူ၏

အဆိုပြုချက်

မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊

ကျောက်ဆည်မြို့စက်မှုနယ်မြေရှိ

အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်းပိုင်၊

စက်ဘီးစက်ရုံမြေနေရာအားငှါးရမ်း၍

CMP စနစ်ဖြင့် ဖိနပ်နှင့်ဖိနပ်ထည့်အိတ်ချုပ်လုပ်ငန်း

အား

WIN & WIN CO; LTD

မှ

လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုတင်ပြချက်



Win&Win Co., Ltd.

No.6, 6 Mile, Pyay Road,
Hlaing Tsp, Yangon, Myanmar
Phone : + 95 1 500894
Fax + 95 1 507443
Email : zbl@ytp.com.mm
Website : www.winandwingroup.com

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်
ရန်ကုန်မြို့

စာအမှတ် ။ ။ ဝ၄၁/ဝင်းဝင်း/ထွေ/၂၀၁၉။
ရက်စွဲ။ ။ ၂၀၁၉ ခုနှစ်၊ လ ( ) ရက်။

အကြောင်းအရာ။ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် ပတ်သက်၍ ကတိဝန်ခံချက် တင်ပြခြင်း။**

၁။ ကျွန်တော်များ **ဝင်းနှင့်ဝင်းကုမ္ပဏီလီမိတက်** သည် မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ ကျောက်ဆည်မြို့အရှေ့ဘက် ၅မိုင်ခွဲဖာလုံခန့် ရှိ မြေဧက(၁၃.၈၀)ပေါ်တွင် **ဖိနပ်နှင့် ဖိနပ်ထည့်အိတ်များချုပ်လုပ်၍ ပြည်ပသို့ ပြန်လည်တင်ပို့ခြင်းလုပ်ငန်းကို** ဆောင်ရွက်လိုပါသဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခွင့်ပြုမိန့်တောင်းခံသည့်ကုမ္ပဏီဖြစ်ပါသည်။

၂။ ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပြီး နိုင်ငံခြားမှမည်သူမှ ပိုင်ဆိုင်မှုမရှိပါကြောင်းနှင့် အောက်ပါအချက်အလက်များကို သိရှိလိုက်နာပါမည် ဖြစ်ပါကြောင်း ဝန်ခံကတိပြုတင်ပြအပ်ပါသည်။

(က) မြေငှားရမ်းခြင်း၊ မြေယာပိုင်ဆိုင်မှုနှင့်ပတ်သက်၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ ချမှတ်ထားသည့် ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများအတိုင်း လိုက်နာဆောင်ရွက်ပါမည်ဟု ဝန်ခံကတိပြုပါသည်။

(ခ) ဤလုပ်ငန်း စီမံကိန်းအတွက် ချေးငွေများ ရယူခဲ့ပါကလည်း ၎င်းချေးငွေများနှင့် ပတ်သက်၍ ကုမ္ပဏီနှင့် ချေးငှားသူတို့သာသက်ဆိုင်ပြီး နိုင်ငံတော်နှင့်ပတ်သက်ခြင်းမရှိ ပါကြောင်း ဝန်ခံကတိပြုပါသည်။

(ဂ) ကျွန်တော်များကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင်လည်း သဘာဝပတ်ဝန်းကျင်အခြေအနေ (EIA)ထိခိုက်ယုတ်လျော့မှုမရှိအောင် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် ပတ်သက်သည့်အကြံပေး ကျွမ်းကျင်ပညာရှင်များ၏ အကြံဉာဏ်ကိုရယူပြီး စနစ်တကျစီမံချက်များ ရေးဆွဲ၍ထိန်းသိမ်းကြီးကြပ် ဆောင်ရွက်သွားမည်ဖြစ်သည့်အပြင် လူမှုဘဝထိခိုက်မှုမရှိစေရန်အတွက် လူမှုပတ်ဝန်းကျင်ထိခိုက်မှု အကဲဖြတ်ဆန်းစစ်ချက်(SIA) နှင့် လူမှုပတ်ဝန်းကျင်ထိန်း

သိမ်းရေးလုပ်ငန်းစီမံချက်များကိုလည်း စနစ်တကျရေးဆွဲဆောင်ရွက်သွားပါမည်။ ထို့ပြင်မီးဘေးအန္တရာယ်များမဖြစ်ပွားစေရန်အတွက် လိုအပ်သောအစီအမံများ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

(ယ) ယခုအဆိုပြုလွှာတွင် ဖော်ပြသည့် **ဖိနပ်နှင့်ဖိနပ်ထည့်အိတ်များ(CMP)** စနစ်ဖြင့် ချုပ်လုပ်သည့်လုပ်ငန်းစီမံကိန်းသည် လုပ်ငန်းစီမံကိန်းအသစ်ဖြစ်ပါကြောင်း နှင့် ပြည်ထောင်စုအစိုးရနှင့် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့တို့မှချမှတ်ထားသည့် ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်း၊လုပ်ထုံးလုပ်နည်းများနှင့်အညီအကောင်အထည်ဖော်ဆောင်ရွက်သွားမည်ဟု ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

WIN SWE
(Managing Director)
Win & Win Co., Ltd



# Win & Win Co., Ltd.


No.6, 6 Mile, Pyay Road,
Hlaing Tsp, Yangon, Myanmar
Phone + 95 1 500894
Fax + 95 1 507443
Email : zbl@ytp.com.mm
Website : www.winandwingroup.com


သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

စာအမှတ် ။ ။ ဝ၄၂/ဝင်းဝင်း/ထွေ/၂၀၁၉။
ရက်စွဲ ။ ။၂၀၁၉ခုနှစ်၊ လ (  )ရက်။

အကြောင်းအရာ။ ။ **Corporate Social Responsibility(CSR) လုပ်ငန်းများအတွက် ကတိဝန်ခံချက်တင်ပြခြင်း။**

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ကျွန်တော်များကုမ္ပဏီအနေဖြင့် ယခုအဆိုပြုတင်ပြသည့် ဖိနပ်နှင့်ဖိနပ်ထည့်အိတ်များ (CMP)စနစ်ဖြင့် ဆောင်ရွက်ရန် စက်ရုံကို ပြုပြင်မွမ်းမံရာတွင် Corporate Social Responsibility (CSR) လုပ်ငန်းများအတွက် ကျွမ်းကျင်ပညာရှင်များ၏ အကြံဉာဏ်နှင့် အကူအညီများကို ရယူပြီးဆောင်ရွက်သွားမည်ဖြစ်ပါသည်။ ထို့ပြင် Corporate Social Responsibility (CSR) လုပ်ငန်းများ ဆောင်ရွက်နိုင်ရန် နှစ်စဉ်ကုမ္ပဏီမှရရှိမည့် အသားတင်အမြတ်ငွေ၏ (၂%) ကိုသုံးစွဲသွားမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

WIN SWE
(Managing Director)
Win & Win Co., Ltd



# Win&Win Co., Ltd.

No.6, 6 Mile, Pyay Road,
Hlaing Tsp, Yangon, Myanmar
Phone : + 95 1 500894
Fax + 95 1 507443
Email : zbl@ytp.com.mm
Website : www.winandwingroup.com

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

စာအမှတ် ။ ။ ဝ၄၃/ဝင်းဝင်း/ထွေ/၂ဝ၁၉။

ရက်စွဲ ။ ။၂ဝ၁၉ခုနှစ် ၊ လ ( )ရက်။

အကြောင်းအရာ။ ။ **သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ကတိဝန်ခံချက်တင်ပြခြင်း။**

၁။ ကျွန်တော်များကုမ္ပဏီအနေဖြင့် **ဖိနပ်နှင့်ဖိနပ်ထည့်အိတ်များ(CMP)**စနစ်ဖြင့် ဆောင်ရွက်မည့်စက်ရုံအား ပြုပြင်မွမ်းမံရာတွင် **သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနမှ ထုတ်ပြန်ထားသည့် ညွှန်ကြားချက်များနှင့်အညီ သဘာဝပတ်ဝန်းကျင်အခြေအနေများ ထိခိုက်ယုတ်လျော့ပျက်စီးမှုမရှိအောင် စနစ်တကျကြီးကြပ်**လိုက်နာဆောင်ရွက်သွားပါမည်။ သဘာဝပတ်ဝန်းကျင်ထိခိုက်မှုအတွက် ပြန်လည်ဆောင်ရွက်သွားနိုင်ရန် စီးပွားဖြစ် စတင်ထုတ်လုပ်သည့်နေ့မှ စတင်၍ ကုမ္ပဏီမှ ရရှိမည့်နှစ်စဉ်အသားတင်အမြတ်ဝင်ငွေပေါ်(၁%)ကို သီးခြား ရန်ပုံငွေ တစ်ရပ်ဖွင့်လှစ်၍ ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

WIN SWE
(Managing Director)
Win & Win Co., Ltd



# Win&Win Co., Ltd.

No.6, 6 Mile, Pyay Road,
Hlaing Tsp, Yangon, Myanmar
Phone : + 95 1 500894
Fax + 95 1 507443
Email : zbl@ytp.com.mm
Website : www.winandwingroup.com

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

စာအမှတ် ။ ။ ၀၄၄/ဝင်းဝင်း/ထွေ/၂၀၁၉။
ရက်စွဲ ။ ။၂၀၁၉ခုနှစ်၊ လ ( )ရက်။

အကြောင်းအရာ။ **။လျှပ်စစ်ဓါတ်အားရယူသုံးစွဲမည့်အစီအစဉ်တင်ပြခြင်း။**

ကျွန်တော်များတည်ဆောက်မည့် **ဖိနပ်နှင့်ဖိနပ်ထည့်အိတ်များ(CMP)**စနစ်ဖြင့် ဆောင်ရွက်မည့်စက်ရုံအတွက် လိုအပ်သော လျှပ်စစ်ဓါတ်အားများကို **မဟာဓါတ်အားလိုင်း**မှ ရယူထားသည့် စက်ရုံအတွင်းရှိ **Transformer** မှတဆင့် ရယူသွားမည်ဖြစ်ပါသည်။ ထို့အပြင် အရေးပေါ် လိုအပ်ချက်အတွက် **Generator** များကိုလည်း အရန်အဖြစ်ထားရှိဆောင်ရွက်သွားပါမည်။

လေးစားစွာဖြင့်

WIN SWE
(Managing Director,
Win & Win Co., Ltd



Win&Win Co., Ltd.

No.6, 6 Mile, Pyay Road,
Hlaing Tsp, Yangon, Myanmar
Phone : + 95 1 500894
Fax : + 95 1 507443
Email : zbl@ytp.com.mm
Website : www.winandwingroup.com

# Win & Win Co., Ltd

## (CMP) စနစ်ဖြင့် ဖိနပ်နှင့်ဖိနပ်ထည့်အိတ်များချုပ်လုပ်သည့်လုပ်ငန်း စက်ရုံပြုပြင်မွမ်းမံခြင်းလုပ်ငန်းအတွက်ရှင်းလင်းတင်ပြချက်နှင့်ကတိစံဝန်ချက်

နိဒါန်း

၁။ ကျွန်တော်များ " ဝင်းနှင့်ဝင်းကုမ္ပဏီလီမိတက် "၏ ကုမ္ပဏီမှတ်ပုံတင် အမှတ်မှာ ၁၈၈၉၈၂၄၇၆ (၂၄. ၉. ၁၉၉၉)ဖြစ်ပါသည်။ ကျွန်တော်များကုမ္ပဏီသည် စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်းပိုင်၊ ကျောက်ဆည်မြို့စက်မှုနယ်မြေရှိ (၂၇. ၆၅)ဧကရှိသော စက်ဘီးစက်ရုံအားငှားရမ်း၍ စက်ဘီးထုတ်လုပ်ခြင်းလုပ်ငန်းနှင့် သစ်ပါးလွှာထုတ်လုပ်ခြင်းလုပ်ငန်းများကို လက်ရှိဆောင်ရွက်နေပါသည်။ ယခုအခါ အဆိုပါမြေဧရိယာများအနက်မှ မြေ(၁၃. ၈၀)ဧကပေါ်တွင် **(CMP) စနစ်ဖြင့် ဖိနပ်နှင့်ဖိနပ်ထည့်အိတ်များချုပ်လုပ်သည့်လုပ်ငန်း**ကို ဆောင်ရွက်သွားမည်ဖြစ်ပါသည်။ ဤသို့ဆောင်ရွက်ရန်အတွက် စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်းမှလည်း သဘောတူခွင့်ပြုထားပြီးဖြစ်ပါသည်။

ရည်ရွယ်ချက်

၂။ နိုင်ငံတော်သမ္မတကြီး၏လမ်းညွှန်ချက်နှင့်အညီ ကျေးလက်နေတောင်သူလယ်သမားများ ဆင်းရဲနွမ်းပါးမှုလျော့ချ၍ လူမှုစီးပွားဘဝဖွံ့ဖြိုးတိုးတက်စေရေးနှင့် မြို့ရွာများခေတ်မီဖွံ့ဖြိုးတိုးတက်လာစေရန်၊

၃။ ကျောက်ဆည်မြို့သည် ခရီးလမ်းပန်းဆက်သွယ်ရေးကောင်းမွန်လွယ်ကူသောဒေသဖြစ်ပြီး ရန်ကုန်မြို့၊ မန္တလေးမြို့များနှင့် ခရီးကွာဝေးမှုမရှိခြင်းကြောင့် ကုန်ကြမ်းပစ္စည်းများနှင့် ထုတ်လုပ်ပြီး ကုန်ချောပစ္စည်းများကိုအလွယ်တကူ စရိတ်သက်သာစွာဖြင့် တင်ပို့နိုင်မည့်အပြင် လိုအပ်သော ကျွမ်းကျင်လုပ်သားများကိုလည်း အလွယ်တကူရရှိနိုင်ခြင်းဖြင့် စက်ရုံလုပ်ငန်းများ ဖွံ့ဖြိုးလာစေရန်၊

၄။ CMP စနစ်ဖြင့်ပို့ကုန်များ ပြည်ပသို့တင်ပို့နိုင်ခြင်းဖြင့် နိုင်ငံတော်နှင့်ကုမ္ပဏီတို့တွင် သင့်တင့်သောနိုင်ငံခြားငွေများရရှိလာစေရန်၊

၅။ ဒေသခံပြည်သူများ အလုပ်အကိုင်အခွင့်အလမ်းများ ပိုမိုရရှိလာမည်ဖြစ်ခြင်းကြောင့် ၎င်းတို့၏လူနေမှုဘဝမြင့်မားလာစေရန်၊

စီမံကိန်းအကောင်အထည်ဖော်ဆောင်ရွက်မည့်အစီအစဉ်

၆။ ယခုတည်ဆောက်မည့် **(CMP) စနစ်ဖြင့် ဖိနပ်နှင့်ဖိနပ်ထည့်အိတ်များချုပ်လုပ်သည့်လုပ်ငန်း**ကို ငှားရမ်းရရှိလာမည့်မြေပေါ်ရှိ စက်ရုံအဆောက်အဦးအား လိုအပ်ချက်နှင့်အညီ ပြုပြင်မွမ်းမံသွားမည်ဖြစ်ပြီး ဖိနပ်နှင့်အိတ်ချုပ်လုပ်ငန်းစက်ရုံအတွက်လိုအပ်သော စက်ပစ္စည်းကိရိယာတန်ဆာပလာများကိုလည်း ပြည်ပမှ

ဝယ်ယူတင်သွင်း သွားမည်ဖြစ်ပါသည်။လုပ်ငန်းများကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့်ရပြီးသည့်နေ့မှစ၍ (၁)နှစ်အတွင်းပြီးစီးအောင် အကောင်အထည်ဖော် ဆောင်ရွက်သွားပါမည်။

၇။ ဤဖိနပ်နှင့်အိတ်ချုပ်စက်ရုံကို စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်းပိုင်၊ ကျောက်ဆည်မြို့စက်မှုနယ်မြေရှိ စက်ဘီးစက်ရုံမြေ(၂၇. ၆၅)ဧကအနက်မှ (၁၃. ၈)ဧကပေါ်ရှိ ရှိရင်းစွဲ စက်ရုံအဆောက်အဦးတွင် ဆောင်ရွက်သွားမည်ဖြစ်ပါသည်။ စက်ရုံတစ်ခုလုံးအတွက် လိုအပ်မည့်ရေကို ယခင်စက်ဘီးစက်ရုံမှ ရယူသုံးစွဲ နေသည့်အတိုင်း ဆက်လက်အသုံးပြုသွားမည်ဖြစ်ပါသည်။ စက်ရုံမှရေဆိုးများ ထွက်ရှိမည်မဟုတ်သဖြင့် သဘာဝပတ်ဝန်းကျင်အား ထိခိုက်ယုတ်လျော့မှုရှိမည်မဟုတ်ပါ။ ရေစီးရေလာကောင်းမွန်ရေးအတွက် လိုအပ်သော စံချိန်မီရေနုတ်မြောင်းများကိုလည်း ဖောက်လုပ်သွားပါမည်။

ရင်းနှီးမြှုပ်နှံမှု

၈။ ကျွန်တော်များကုမ္ပဏီအနေဖြင့် ယခုအဆိုပြုသည့် စက်ရုံစီမံကိန်းတစ်ခုလုံးအတွက် အမေရိကန်ဒေါ်လာ(၁. ၄၂၅)သန်းအပါအဝင် စုစုပေါင်းကျပ်သန်း(၂၅၀၀. ၀၀)ကိုကျခံသုံးစွဲသွားမည်ဖြစ်ပါသည်။

လျှပ်စစ်ဓါတ်အားရယူသုံးစွဲခြင်း

၉။ ကျွန်တော်များကုမ္ပဏီအနေဖြင့် စက်ရုံအတွက် လိုအပ်သောဓါတ်အားကို မူလကတည်းကပင် စက်ဘီးစက်ရုံမှအသုံးပြုနေသည့် Transformer မှပင်ဆက်လက်ရယူအသုံးပြုသွားမည်ဖြစ်ပါသည်။ ထို့ပြင် အရံအနေဖြင့်မီးစက် (Generator)များကိုလည်း ထားရှိဆောင်ရွက်သွားမည်ဖြစ်ပါသည်။

ထုတ်လုပ်ပြီးဖိနပ်နှင့်အိတ်များရောင်းချမည့်စနစ်

၁၀။ ယခုတည်ဆောက်မည့်ဖိနပ်နှင့်အိတ်ချုပ်စက်ရုံသည် **(CMP)စနစ်ဖြင့် ဖိနပ်နှင့်ဖိနပ်ထည့်အိတ်များချုပ်လုပ်ပြီး** ပြည်ပသို့ပြန်လည်တင်ပို့သွားမည်ဖြစ်ပါသည်။ ထုတ်လုပ်မည့် ဖိနပ်နှင့်အိတ်များအား အရည်အသွေးမီသော ဖိနပ်နှင့်အိတ်များဖြစ်ရန် ကြိုးစားဆောင်ရွက်သွားမည်ဖြစ်ပါသည်။

သဘာဝပတ်ဝန်းကျင်နှင့် လူမှုဘဝထိန်းသိမ်းခြင်း

၁၁။ ကျွန်တော်များကုမ္ပဏီအနေဖြင့် ယခုအဆိုပြုတင်ပြသည့်စီမံကိန်း ဆောင်ရွက်ရာတွင် သဘာဝပတ်ဝန်းကျင်ထိခိုက်ယုတ်လျော့ ပျက်စီးစေမှုများမရှိစေရန်အတွက် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးကိစ္စများနှင့် ပတ်သက်သည့် ကျွမ်းကျင်ပညာရှင်များ၏ အကြံဉာဏ်နှင့် အကူအညီများကိုရယူပြီး ဆောင်ရွက်သွားမည်ဖြစ်ပါသည်။ ဤသို့ဆောင်ရွက်နိုင်ရန်အတွက်တစ်နှစ်လျှင် (CMP)ဝင်ငွေ၏(၁%)နှင့် လူမှုဘဝလုပ်ငန်းများ ဆောင်ရွက်နိုင်ရန်အတွက် ကုမ္ပဏီမှနှစ်စဉ်ရရှိမည့် အသားတင် အမြတ်ငွေအပေါ် ၂%ကို သီးသန့်ရန်ပုံငွေစာရင်းခေါင်းစဉ်ဖွင့်လှစ်၍ ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

မီးဘေးကာကွယ်ရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး

၁၂။ မီးဘေးလုံခြုံရေးအတွက် ကြိုတင်အစီအမံများ စနစ်တကျထားရှိသွားမည့်အပြင် ဝန်ထမ်းသက်သာ

(ည) ဝန်ထမ်းများ၏ လူမှုဖူလုံရေးအကျိုးခံစားခွင့်ရရှိရေးအတွက် "အငှားချထားခြင်းခံရသူ"မှ တာဝန်ယူရမည်။

(ဋ) ဝန်ထမ်းများ၏ သက်သာချောင်ချိရေး ကိစ္စများကို "အငှားချထားခြင်းခံရသူ"မှ စီစဉ်ဆောင်ရွက်ပေးရန် တာဝန်ယူရမည်။

(ဌ) ဝန်ထမ်းများအလုပ်ခွင်တွင် မတော်တဆ ထိခိုက်မှု ဖြစ်ပွားပါက "အငှားချထားခြင်းခံရသူ"မှ တာဝန်ယူဆောင်ရွက်ပေးရမည်။

(ဍ) ဝန်ထမ်းများ ရာထူးအနွယ်(Lien) ဆက်လက်ထိန်းသိမ်းထားပြီး ရာထူးတိုးမြှင့်ရန် အချိန်ကျရောက်သည့်အခါ ရာထူးတိုးမြှင့်ခြင်းကိစ္စများကို "အငှားချထားသူ"မှ ဆောင်ရွက်ရမည်။

(ဎ) ဝန်ထမ်းရေးရာကိစ္စများနှင့် ပတ်သက်၍ စက်မှုနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း၊ ဦးဆောင်ညွှန်ကြားရေးမှူး ဥက္ကဋ္ဌအဖြစ် ဆောင်ရွက်သည့် စီမံခန့်ခွဲရေးအဖွဲ့မှ တာဝန်ယူဆောင်ရွက်ရမည်။

(ဏ) လုပ်ငန်းတွင် ထိခိုက်နစ်နာမှု မရှိစေရန်အတွက် ဝန်ထမ်းများအား ဤစက်ရုံ၏ ပြင်ပလုပ်ငန်းနေရာများသို့ ပြောင်းရွှေ့ခြင်းကို "အငှားချထားခြင်းခံရသူ"၏ သဘောတူညီမှုဖြင့် ဆောင်ရွက်ရမည်။

(တ) ဝန်ထမ်းအိမ်ရာတွင် လက်ရှိနေထိုင်လျက်ရှိသော ဝန်ထမ်းများအား ဤစက်ရုံ၌ တာဝန်ထမ်းဆောင်နေသော ကာလတွင် ဆက်လက်နေထိုင်ခွင့်ပြုရမည်။ ဝန်ထမ်းအိမ်ရာများ၏ ပြုပြင်ထိန်းသိမ်းရေးလုပ်ငန်းများကို "အငှားချထားခြင်းခံရသူ"က တာဝန်ယူဆောင်ရွက်ရမည်။

(ထ) ဝန်ထမ်းများအတွက် ပင်စင်ထည့်ဝင်ကြေး၊ လူမှုဖူလုံကြေးတို့ကို အငှားချထားခြင်းခံရသူက ထည့်ဝင်ပေးရမည်။

**ငှားရမ်းခနှုန်းထား**

၈။ ငှားရမ်းခနှုန်းထားမှာ စက်ဘီးစက်ရုံ(ကျောက်ဆည်)အတွက် တစ်လ ကျပ်(၈.၀၀၀) သန်း (ကျပ်ရှစ်သန်း တိတိ ) ဖြစ်ပြီး တစ်နှစ်လျှင် ကျပ် (၉၆.၀၀၀)သန်း (ကိုးဆယ့် ခြောက် ကျပ်သန်းတိတိ ) ဖြစ်ပါသည်။

၉။ ငှားရမ်းခနှုန်းထားအား (၁)နှစ်တစ်ကြိမ် ပြန်လည်သုံးသပ်ပြီး နှစ်ဦးသဘောတူ ညှိနှိုင်းပြင်ဆင်ခြင်းကို စက်မှုဝန်ကြီးဌာန ပစ္စည်းဝယ်ယူရောင်းချရေးနှင့်ဘဏ္ဍာရေးဆိုင်ရာကော်မတီ အစည်းအဝေးသို့ တင်ပြအတည်ပြုချက်ရယူ၍ ပြင်ဆင်သတ်မှတ် နိုင်သည်။

**ငှားရမ်းခပေးချေခြင်း**

၁၀။ "အငှားချထားခြင်းခံရသူ"သည် ငှားရမ်းခအား (၃)လတစ်ကြိမ် တစ်နှစ်လျှင် (၄)ကြိမ်ဖြစ်သော မေလမှ ဇူလိုင်လအထိ(၁)ကြိမ်၊ ဩဂုတ်လမှအောက်တိုဘာလအထိ (၁)ကြိမ်၊ နိုဝင်ဘာလမှ ဇန်နဝါရီလအထိ (၁)ကြိမ်၊ ဖေဖော်ဝါရီလမှ ဧပြီလအထိ(၁)ကြိမ်၊ (၃)လပြည့်ပြီး နောက်ဆုံးလ၏ နောက်ဆုံးပတ်တွင် တစ်ကြိမ်လျှင် ကျပ်(၂၄)သန်း ပေးသွင်းရမည်။ ပေးသွင်းရန်ပျက်ကွက် ပါက (၇)ရက်တစ်ပတ်လျှင် ပေးသွင်းရမည့်ငွေ၏ (၁%) ဒဏ်ကြေးပေးဆောင်ရမည်။

၁၁။ "အငှားချထားသူ"နှင့် "အငှားချထားခြင်းခံရသူ"သည် လိုအပ်ပါက (၁)နှစ်လျှင် (၁)ကြိမ် လုပ်ငန်း ဆောင်ရွက်မှု အခြေအနေများအား ပြန်လည်သုံးသပ်၍ စာချုပ်ဝင် နှစ်ဦးနှစ်ဖက် သဘောတူညီပါက ငှားရမ်းခပေးချေမည့် အစီအစဉ်အား စက်မှုဝန်ကြီးဌာန၊ စီမံခန့်ခွဲမှုကော်မတီ၏ ဆုံးဖြတ်မှုနှင့် ပြန်လည်ပြင်ဆင်ဆောင်ရွက်နိုင်သည်။

**အငှားချထားခြင်းခံရသူ၏ တာဝန်နှင့် လုပ်ပိုင်ခွင့်များ**

၁၂။ "အငှားချထားခြင်းခံရသူ"၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များမှာ တဖက်ပါအတိုင်း ဖြစ်ပါသည်-

(က) ငှားရမ်းသည့် မြေ၊ အဆောက်အဦ၊ စက်ပစ္စည်းကိရိယာများ၊ မော်တော်ယာဥ်များ၊ ရုံးသုံးပရိဘောဂများနှင့် အခြားပစ္စည်းများကို (နောက်ဆက်တွဲ (က) မှ (စ) အထိ) ပါ အတိုင်း ငှားရမ်းဆောင်ရွက်ရမည်။

( ခ ) ငှားရမ်းခွင့်ရရှိထားသော စက်ဘီးစက်ရုံ(ကျောက်ဆည်)ရှိ မြေနှင့်အဆောက်အဦတွင် ကနဦး တင်ပြထားသော လုပ်ငန်းများအပြင် ဥပဒေနှင့် မငြိစွန်းသည့် အခြားလုပ်ငန်းများကို တိုးချဲ့လုပ်ကိုင်လိုပါက အငှားချထားသူသို့ ညှိနှိုင်းဆောင်ရွက်ခွင့်ရှိသည်။

( ဂ ) ငှားရမ်းခွင့်ရယူထားသော စက်ရုံနှင့် ပစ္စည်းများအား တဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ ရောင်းချခြင်း (သို့မဟုတ်) တစ်နည်းနည်းဖြင့် လွှဲပြောင်းပေးခြင်း၊ အသုံးပြုခွင့်ပေးခြင်းတို့ကို မပြုလုပ်ရ။

( ဃ ) စက်ဘီးစက်ရုံ(ကျောက်ဆည်)၏ အဆောက်အဦနှင့် စက်ပစ္စည်းကိရိယာများကို လိုအပ်သည့် မွမ်းမံပြင်ဆင်မှုများ ဆောင်ရွက်ရမည်။

( င ) တိုးချဲ့လုပ်ကိုင်မည့် ကုန်ထုတ်လုပ်ငန်းများနှင့် ဝန်ဆောင်မှုလုပ်ငန်းများအတွက် လိုအပ်သည့် စက်ပစ္စည်းအသစ်များ တပ်ဆင်ခြင်းတို့ကို "အငှားချထားသူ"နှင့် ညှိနှိုင်းဆောင်ရွက်ပြီး အဆောက်အဦအသစ် ဆောက်လုပ်ရန်ရှိပါက "အငှားချထားသူ"နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

( စ ) စက်ရုံအား မငှားရမ်းမီအချိန်အထိ စက်ရုံနှင့်ပတ်သက်သည့် ဌာနအလိုက် စာရွက်စာတမ်းများ၊ စာရင်းဇယားများ အားလုံးအား အစစ်ဆေးခံနိုင်ရေးနှင့် အခြား လိုအပ်သည်များ ဆောင်ရွက်နိုင်ရန် စနစ်တကျ ထိန်းသိမ်းဆောင်ရွက်ရမည်။

( ဆ ) အငှားချထားသည့် စက်ရုံ၏ အခြေအနေများကို စစ်ဆေးရန်လိုအပ်ပါက အငှားချထားသူက နည်းလမ်းတကျ လုပ်ကိုင်ခွင့်ပေးအပ်သော ကိုယ်စားလှယ်များကို ဝင်ရောက်ခွင့်ပြုရမည်။

( ဇ ) အငှားချထားသည့် စက်ရုံတွင် အသုံးပြုသော လျှပ်စစ်၊ ရေ၊ တယ်လီဖုန်းနှင့် ဆက်သွယ်ရေးဆိုင်ရာ အသုံးပြုကြေးနှင့် အခွန်အခများအား သတ်မှတ်ရက်အတွင်း အချိန်မီပေးဆောင်ရမည်ဖြစ်ပြီး၊ ပေးဆောင်ထားသည့် ပြေစာအထောက်အထား မိတ္တူများအား "အငှားချထားသူ"ထံ လစဉ်ပေးပို့ရမည်။

( ဈ ) အငှားချထားသည့် စက်ရုံ၏ကုန်ထုတ်လုပ်မှုအတွက် လိုအပ်သည့် လျှပ်စစ်နှင့် သဘာဝဓာတ်ငွေ့အတွက် ကျသင့်ငွေများအား သက်ဆိုင်ရာဝန်ကြီးဌာန၏ သတ်မှတ်နှုန်းထားအတိုင်း ပေးချေရမည်။

(ည) အငှားချထားသည့် စက်ရုံအတွက် အလုံးစုံအာမခံကို မြန်မာ့အာမခံလုပ်ငန်းဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်အညီ ထားရှိရမည်ဖြစ်ပြီး အာမခံသက်တမ်းကျော်လွန်မှု မရှိစေရေး တာဝန်ယူဆောင်ရွက်ရမည်။

(ဋ) လျှပ်စစ်ဓါတ်အားသုံးစွဲမှုကို တည်ဆဲဥပဒေ စည်းမျဉ်းများနှင့်အညီ သုံးစွဲပြီး မီးဘေး ကာကွယ်ရေးအစီအမံများ လုံလောက်စွာ ထားရှိရမည်။ စက်ရုံ၏ သန့်ရှင်းရေး၊ အထွေထွေလုံခြုံရေးတို့ကိုလည်း တာဝန်ယူဆောင်ရွက်ရမည်။

(ဌ) "အငှားချထားသူ"၏ ခွင့်ပြုချက်ဖြင့် လျှပ်စစ်သွယ်တန်းခြင်း၊ အဝီစိတွင်းတူးခြင်း၊ ရေပိုက်သွယ်တန်းခြင်း၊ တယ်လီဖုန်းဆက်သွယ်တပ်ဆင်ခြင်းကို မိမိစရိတ်ဖြင့် ဆောင်ရွက်နိုင်သည်။ စာချုပ်သက်တမ်းကုန်ဆုံးပါက (သို့) အငှားစာချုပ်ရပ်စဲခြင်း ဖြစ်ပါက အဆိုပါ ပစ္စည်းများကို ပြန်လည်ဖြုတ်ယူခြင်း၊ ဖြုတ်တောက်ခြင်းများကို အငှား ချထားသူ၏ ခွင့်ပြုချက်ရရှိမှသာ ပြန်လည်ဖြုတ်ယူခွင့်ရှိသည်။

(ဍ) အငှားချထားသည့် စက်ရုံတွင် တပ်ဆင်မှုများ၊ ပုံစံပြောင်းလဲမှုများ၊ စက်ပစ္စည်းအသစ်ဖြည့်စွက်တပ်ဆင်မှုများနှင့် တိုးချဲ့ဆောက်လုပ်မှုများအား လိုအပ်သလိုဆောင်ရွက်သွားနိုင်ပြီး စက်ရုံပြန်လည်လွှဲပြောင်းပေးချိန်တွင် တပ်ဆင်ထားသောပစ္စည်းများနှင့် တိုးချဲ့အဆောက်အဦများ၏ ထိုက်သင့်သည့်တန်ဖိုးရရှိရေး နှစ်ဦးနှစ်ဖက် ညှိနှိုင်း ဆောင်ရွက်ရမည်။

(ဎ) အငှားချထားသည့် ပစ္စည်းများနှင့်စပ်လျဉ်း၍ မြေခွန်မှအပ စည်ပင်သာယာခွန်၊ အခြား အခွန်အခများ၊ ကုန်ထုတ်လုပ်မှုနှင့် သက်ဆိုင်သည့် အခွန်အခအမျိုးမျိုးတို့ကို ကျခံပေး ဆောင်ရမည်။

(ဏ) ဤစာချုပ်သက်တမ်း ကုန်ဆုံးသည့်နေ့မှ တစ်လအတွင်း "အငှားချထားသူ"သို့ အငှားချထားသည့် ပစ္စည်းများအားလုံးကို စတင်ငှားရမ်းခဲ့စဉ်က အခြေအနေအတိုင်း ပြုပြင်မွမ်းမံပြီး အဖိုးစားနားမပါရှိဘဲ "အငှားချထားသူ"၏ လက်ဝယ်အရောက် ပြန်လည်အပ်နှံရမည်။ သို့ရာတွင် အကျိုးအကြောင်းဆီလျော်မှုရှိသော ပွန်းပဲ့ခြင်း များအတွက် ပြောင်းလဲမှုများကို ခွင့်ပြုလက်ခံနိုင်သည်။

(တ) စက်ရုံကိုလက်ခံသည့်နေ့တွင် စက်အရန်ပစ္စည်းများကို "အငှားချ ထားခြင်းခံရသူ"မှ အသုံးပြုမည်ဆိုပါက နှစ်ဖက်ညှိနှိုင်း တန်ဖိုးသင့်၍ သတ်မှတ်ကာလအတွင်း "အငှားချထားသူ" သို့ ပေးချေရမည်။

(ထ) ကုန်ချော၊ ကုန်ကြမ်းများအား အငှားချထားခြင်းခံရသူနှင့် ဈေးနှုန်းညှိနှိုင်း၍ သီးခြားစာချုပ်ချုပ်ဆို ဆောင်ရွက်မည်ဖြစ်ပါသည်။

(ဒ) ထုတ်လုပ်ထားသော ကုန်ချောပစ္စည်းများကို ပြင်ပဈေးကွက်တွင် မိမိကြိုက်နှစ်သက်သည့်ဈေးနှုန်းဖြင့် လွတ်လပ်စွာရောင်းချခွင့်၊ သိုလှောင်ခွင့်၊ သယ်ယူခွင့် ရှိသည်။

(ဓ) အငှားချထားသည့်စက်ရုံတွင် ခွင့်ပြုထားသည့်လုပ်ငန်းမှအပ ဥပဒေနှင့်မညီညွတ်သော လုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုရ။

(န) "အငှားချထားခြင်းခံရသူ"မှ ဆောင်ရွက်မည့်လုပ်ငန်းအတွက် သက်ဆိုင်ရာ ဌာနဆိုင်ရာများ၏ လုပ်ငန်းဆောင်ရွက်ခွင့်ပြုမိန့် အထောက်အထားများထားရှိပြီး "အငှားချထားသူ" ထံ မိတ္တူတစ်စုံအပ်နှံထားရမည်။

(ပ) အငှားချထားသည့်စက်ရုံ၏ အုပ်ချုပ်မှုနှင့် ကုန်ထုတ်လုပ်မှုအတွက် လိုအပ်သည့် ဒီဇယ်ဆီ၊ ဓါတ်ဆီတို့အား အငှားချထားခြင်းခံရသူ၏ အစီအမံဖြင့် စီစဉ်ဆောင်ရွက်ရမည်။

(ဖ) စက်ရုံရှိမော်တော်ယာဉ်များနှင့် ပတ်သက်၍ စက်သုံးဆီနှင့် ပြုပြင်ထိန်းသိမ်းမှုများကို "အငှားချထားခြင်းခံရသူ "မှ တာဝန်ယူဆောင်ရွက်ပေးရမည်။

**ကိုယ်ပိုင်တံဆိပ်ဖြင့်ထုတ်လုပ်ခြင်း**

၁၃။ "အငှားချထားခြင်းခံရသူ"၏ ကိုယ်ပိုင်ကုန်တံဆိပ်ဖြင့် ထုတ်လုပ်လိုက ထုတ်လုပ်ခွင့်ရှိ သည်။ သို့ရာတွင် အဆိုပါ ကုန်တံဆိပ်နှင့် စပ်လျဉ်း၍ မူပိုင်အခွင့်အရေးများကို ချိုး ဖောက်ကြောင်း တရားစွဲဆိုခံရလျှင် "အငှားချထားခြင်းခံရသူ"၏ တာဝန်သာဖြစ်သည်။

**ဓာတ်သတ္တုအရင်းအမြစ်များ**

၁၄။ စာချုပ်ပါသက်တမ်းအတွင်း ယခုလုပ်ငန်းဆောင်ရွက်သည့် မြေ၏မြေပေါ်၊ မြေအောက် မှ မမျှော်လင့်ဘဲ ဓာတ်သတ္တုအရင်းအမြစ်များ၊ ရေနံဓာတုဆိုင်ရာပစ္စည်းများ၊ သဘာဝသယံဇာတ

ပစ္စည်းများ၊ ရှေးဟောင်းပစ္စည်းများ၊ ကျောက်မျက်ရတနာများ အစရှိသည်တို့ကို တွေ့ရှိပါက "အငှားချထားသူ"ထံ ချက်ချင်းအကြောင်းကြားရမည်။ အဆိုပါ ပစ္စည်းများသည် "အငှားချထားခြင်းခံရသူ"နှင့် သက်ဆိုင်ခြင်းမပြုစေရ၊ "အငှားချထား သူ"သည် အဆိုပါပစ္စည်းများကို "အငှားချထားခြင်းခံရသူ"၏ လုပ်ငန်းများ နစ်နာဆုံးရှုံး မှုမရှိစေဘဲ လွတ်လပ်စွာတူးဖော်ရယူခွင့်ရှိစေမည့်အပြင် နိုင်ငံတော်အစိုးရသို့ လွှဲ ပြောင်းတင်ပြခွင့် ရှိစေရမည်။

**ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း**

၁၅။ အငှားချထားခံရသူအနေဖြင့် လုပ်ငန်းလုပ်ဆောင်မည့်နေရာ၊ ဒေသ၏ပတ်ဝန်းကျင်နေရာများအား ကောင်းစွာကာကွယ်ထိန်းသိမ်းစောင့်ရှောက်ထားရန် တာဝန်ရှိသည်။ထို့အပြင် လေထု၊ ရေထုနှင့် မြေထုများညစ်ညမ်းခြင်းနှင့် အခြားသော ပတ်ဝန်းကျင် ဆိုင်ရာထိခိုက်ပျက်စီးဆုံးရှုံးခြင်းအား ကာကွယ်ထိန်းချုပ်ခြင်း လုပ်ငန်းများကို ဆောင်ရွက်ရမည်။ ရေများသန့်စင်နိုင်သော စက်များတပ်ဆင်ပေးခြင်း၊ လေထုညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန် အခိုးအငွေ့နှင့် အညစ်အကြေးစွန့် အစိတ်အပိုင်းများကို လုံခြုံစွာထားရှိပေးခြင်းဖြင့် အခြားသော ပတ်ဝန်းကျင်ဘေးအန္တရာယ်ကင်းရှင်းရေးဆိုင်ရာ လိုအပ်သောအကာအကွယ် အစီအစဥ်များဆောင်ရွက်ရမည်။

**အငှားချထားသူ၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ**

၁၆။ "အငှားချထားသူ"၏ တာဝန်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) "အငှားချထားခြင်းခံရသူ"သို့ အငှားချထားသည် စက်ဘီး စက်ရုံ(ကျောက်ဆည်)ကို လွှဲပြောင်းပေးပြီး ကုန်ပစ္စည်းများ ထုတ်လုပ်ခွင့်ပေး ရမည်။

(ခ) စက်ရုံနှင့်ပတ်သက်သည့်ဌာနအလိုက် သတ်မှတ်ထားသည့် လုပ်ကိုင်မှုနည်းစနစ်များ၊ စာရွက်စာတမ်းများ၊ စာရင်းဇယားများအား လိုအပ်သည်များဆောင်ရွက်နိုင်ရန် "အငှားချထားခြင်းခံရသူ"အား စနစ်တကျ လွှဲပြောင်းပေးအပ်ရမည်။

(ဂ) စက်ရုံတွင် တပ်ဆင်ထားပြီးသော သဘာဝဓာတ်ငွေ့၊ လျှပ်စစ်၊ ရေ၊ တယ်လီဖုန်းတို့ကို "အငှားချထားခြင်းခံရသူ"အား ဆက်လက်အသုံးချခွင့်ပြုရမည်။

(ဃ) အငှားချထားသည့် စက်ရုံအခြေအနေများကို နည်းလမ်းတကျ လုပ်ပိုင်ခွင့်ပေးအပ်သော ကိုယ်စားလှယ်များ စေလွှတ်၍ စစ်ဆေးနိုင်ခွင့်ရှိသည်။

(င) အငှားချထားသည့် စက်ရုံအတွက် ကျသင့်သည့်မြေခွန်ကို ပေးဆောင်ရမည်။

(စ) စက်ရုံတွင် အသုံးပြုသော လျှပ်စစ်၊ ရေ၊ တယ်လီဖုန်းနှင့် ဆက်သွယ်ရေးဆိုင်ရာ အသုံးပြုခြင်းနှင့် အခွန်အခများအား "အငှားချထားခြင်းခံရသူ"မှ လစဉ်အချိန်မီ ပေးဆောင်မှုရှိ/မရှိ စိစစ်ရမည်။

(ဆ) အငှားချထားသည့်စက်ရုံ၏ ကုန်ထုတ်လုပ်မှုအတွက် လိုအပ်သည့် မီးထိုးဆီနှင့် သဘာဝဓာတ်ငွေ့များ ရရှိရေးအတွက် သက်ဆိုင်ရာဌာနများနှင့် ညှိနှိုင်းဆောင်ရွက်ပေးရမည်။

(ဇ) အငှားချထားသည့်စက်ရုံနှင့်သက်ဆိုင်သော အာမခံများ၏ အာမခံသက်တမ်းကျော်လွန်မှု မရှိစေရေး ကြပ်မတ်ဆောင်ရွက်ရမည်။

**စာချုပ်သက်တမ်းတိုးခြင်း**

၁၇။ "အငှားချထားခြင်းခံရသူ"သည် စက်ရုံငှားရမ်းရေးစာချုပ် သက်တမ်းကုန်ဆုံးပြီးနောက် အငှား ချစက်ရုံကို ဆက်လက်ငှားရမ်းလိုပါက နောက်ထပ်ငှားရမ်းလိုသည့် ကာလနှင့် ငှားရမ်းခနှုန်းထား ကိုဖော်ပြလျက် စာချုပ်သက်တမ်းတိုးမြှင့်ပေးပါရန် "အငှားချထားသူ"ထံ စာချုပ်သက်တမ်းမကုန်ဆုံးမီ (၃)လ ကြိုတင်၍ စာဖြင့်တင်ပြရမည်။ ထပ်မံငှားရမ်းမည့် ကာလအတွက် နှစ်စဉ်ငှားရမ်းခနှုန်းထားကို နှစ်ဦးနှစ်ဘက်ညှိနှိုင်း သတ်မှတ်ရမည်။ ထိုသို့သက်တမ်းတိုးမြှင့်ခြင်း၊ ငှားရမ်းခနှုန်းထားပြင်ဆင်ခြင်းတို့သည် စက်မှုဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီ၏ အတည်ပြုချက်ရရှိမှသာ အတည်ဖြစ်စေရမည်။စာချုပ်သက်တမ်းတိုးခြင်းကို (၁၀)နှစ် (၂)ကြိမ်သာဖြစ်ပါသည်။

**ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း**

၁၈။ "အငှားချထားခြင်းခံရသူ"သည် ဤသဘောတူစာချုပ်ပါ ငှားရမ်းခြင်းကာလကုန်ဆုံးသည့်အခါဖြစ်စေ၊ ငှားရမ်းခြင်းရပ်စဲသည့်အခါဖြစ်စေ ယင်းသို့ကုန်ဆုံးသည့်နေ့ (သို့) ရပ်စဲသည့်နေ့မှ (၃၀) ရက်အတွင်း အငှားချထားသည့် စက်ရုံ၊ မြေ၊ အဆောက်အဦနှင့် စက်ကိရိယာများကို "အငှားချထားသူ" သို့ အဖိုးစားနားမပါရှိဘဲ ကောင်းမွန်သော အနေအထားဖြင့် ပြန်လည်လွှဲပြောင်းပေးအပ်ရမည်။

**အငြင်းပွားမှုဖြေရှင်းခြင်း**

၁၉။ ဤစာချုပ်နှင့်စပ်လျဉ်း၍ အငြင်းပွားမှုတစ်စုံတစ်ရာ ပေါ်ပေါက်လာပါက ထိုအငြင်းပွားမှုကို ငြိမ်းချမ်းသောနည်းလမ်းဖြင့် နှစ်ဦးနှစ်ဖက်ဖြေရှင်းကြရမည်။ဖြေရှင်းမရနိုင်ပါက ဥပဒေနှင့်အညီ သက်ဆိုင်ရာ စီရင်ပိုင်ခွင့်ရှိသော တရားရုံး၏ ဆုံးဖြတ်ချက်ကို ခံယူရမည်။

**မလွန်ဆန်နိုင်သည့် ဖြစ်ရပ်များ**

၂၀။ မလွန်ဆန်နိုင်သော ဖြစ်ရပ်များဆိုသည်မှာ သဘာဝအလျောက် ကြုံတွေ့နိုင်သည့် ရေဘေး၊ လေဘေး၊ မီးဘေး၊ မြေငလျင်ဘေး စသည်များအပြင် နိုင်ငံတော်အစိုးရ၏ ကန့်သတ်တားမြစ်ချက်များ၊ တရားဥပဒေစိုးမိုးရေးနှင့် ငြိမ်ဝပ်ပိပြားမှု ပျက်ပြယ်ခြင်း၊ စစ်ဖြစ်ခြင်း စသည်တို့နှင့် စာချုပ်ဝင် တစ်ဖက်ဖက်က လိုအပ်သော သတိဝိရိယနှင့် ဆောင်ရွက်စေကာမူ မလွန်ဆန် မကျော်လွှား နိုင်သည့် အလားတူဖြစ်ရပ်များဖြစ်ပြီး ယင်းဖြစ်ရပ်များကြောင့် ငှားရမ်းသုံးစွဲမှုကို ထိခိုက်ဆုံးရှုံးစေလျှင် "အငှားချထားခြင်းခံရသူ"သည် "အငှားချထားသူ"တို့ နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းခံခွင့် မရှိစေရ။

၂၁။ အငှားချထားသည့် ပစ္စည်းအားလုံးကို လျော်ကန်သင့်မြတ်သော သတိ၊ ဝီရိယဖြင့် ကောင်းမွန်စွာ ထိန်းသိမ်းထားပြီး လိုအပ်သော ပြင်ဆင်မွမ်းမံမှုအားလုံးကို ပြုလုပ်ရ မည်။ အကယ်၍ အဆိုပါပစ္စည်းများအားလုံးဖြစ်စေ၊ တစ်စိတ်တစ်ဒေသဖြစ်စေ မီး လောင်ခြင်း၊ မြေငလျင်လှုပ်ခြင်း၊ လေမုန်တိုင်းကျရောက်ခြင်း၊ ရေကြီးခြင်း၊ ရုန်းရင်း ဆန်ခတ်မှု ဖြစ်ပေါ်ခြင်း (သို့) အခြားမလွှဲရှောင်နိုင်သည့် အကြောင်းတရားများကြောင့် ပျက်စီးသွား၍ ဆက်လက်အသုံးပြုရန် မသင့်လျော်ပါက "အငှားချထားသူ"အား ဤ စာချုပ်ကို ရပ်ဆဲပေးရန် (သို့) အသုံးပြုရန် သင့်လျော်သည့် ကျန်ရှိနေသည့် အစိတ် အပိုင်းအတွက် ငှားရမ်းခကို အချိုးကျလျှော့ပေါ့ပေးရန် အမြန်ဆုံးအကြောင်းကြားရ မည်။ သို့ရာတွင် အငှားချထားသည့် ပစ္စည်းများ၏ ပျက်စီးဆုံးရှုံးခြင်း ဖြစ်ပေါ်ရခြင်း မှာ အငှားချထားခြင်းခံရသူ၏ မှားယွင်းသော လုပ်ဆောင်ချက်၊ သင့်လျော်သလို ဆောင်ရွက်ရန် ပျက်ကွက်ခြင်း (သို့) ပေါ့လျော့ခြင်းကြောင့် ဖြစ်ပွားပါက "အငှားချထားခြင်းခံရ သူ"သည် ဤအပိုဒ်ပါ အခွင့်အရေးကို ရယူခံစားနိုင်ခွင့် မရှိသည့်အပြင် ယင်းပစ္စည်း များအား နဂိုမူလအခြေအနေသို့ ရောက်ရှိအောင် ပြန်လည်ပြင်ဆင်မွမ်းမံ ရသည့် ကုန်ကျစရိတ်အားလုံးကို ပေးချေရမည်။

၂၂။ ထိုသို့ မလွန်ဆန်နိုင်သော ဖြစ်ရပ်များပေါ်ပေါက်လာပါက ယင်းဖြစ်ရပ် ဖြစ်ပေါ်သည့်အချိန်မှ (၁၄)ရက်အတွင်း "အငှားချထားခြင်းခံရသူ"သည် အငှားချထားသူသို့ ချက်ချင်း စာဖြင့် ရေးသား အကြောင်းကြားရမည်။ "အငှားချထားသူ"က လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သော ဖြစ်ရပ် မြောက် ပြီး စက်ရုံ၊ မြေ၊ အဆောက်အဦနှင့် စက်ပစ္စည်းများ ငှားရမ်းအသုံးပြုခွင့်နှင့် တိုက်ရိုက် သက်ဆိုင်သော ဖြတ်တောက်ကာလအပိုင်း အခြားအတွက် ငှားရမ်းခကို သက်သာခွင့်ပြုနိုင်သည်။

**စာချုပ်အကျိုးသက်ရောက်သည့်နေ့**

၂၃။ ဤစာချုပ်သည် "အငှားချထားသူ" နှင့် "အငှားချထားခြင်းခံရသူ"တို့ လက်မှတ်ရေးထိုးပြီးသည့် နေ့မှစ၍ အကျိုးသက်ရောက်မှုရှိစေရမည်။

**စာချုပ်ပြင်ဆင်ခြင်း**

၂၄။ ဤစာချုပ်ပါ စည်းမျဉ်းစည်းကမ်းများကို ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်းနှင့် ထပ်မံဖြည့်စွက်ခြင်း ပြုလုပ်လိုပါက စာချုပ်ဝင်နှစ်ဦးနှစ်ဖက်မှ တရားဝင်စာဖြင့် သဘောတူညီချက်ရရှိမှသာ ပြုလုပ်ရမည်။

၂၅။ "အငှားချထားခြင်းခံရသူ"မှ စက်ရုံငှားရမ်းရာတွင် စီးပွားရေးအရ တွက်ချေကိုက်မှု မရှိခြင်း၊ အခြားသောအဆင်မပြေမှုများ ရှိခြင်းကြောင့် စာချုပ်ပြင်ဆင်လိုပါက "အငှားချထားသူ"ထံ စာဖြင့် အကြောင်းကြားရမည်။ နှစ်ဦးနှစ်ဖက်ညှိနှိုင်း ဆွေးနွေးမှုကို (၁)လထက်မပိုသော ကာလအတွင်း ပြီးပြတ်အောင်ဆောင်ရွက်ရမည်။

**စာချုပ်ပြန်လည်ညှိနှိုင်းခြင်း**

၂၆။ စာချုပ်ပါစည်းကမ်းချက်များနှင့်အညီ လုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်ရာတွင် လုပ်ငန်းလိုအပ်ချက်အရ (သို့မဟုတ်) ဤစာချုပ်တွင်မပါရှိသည့် ကိစ္စရပ်များပေါ်ပေါက်လာလျှင် စာချုပ်ဝင်နှစ်ဦးနှစ်ဖက် ညှိနှိုင်းခွင့်ရှိစေရမည်။

**စာချုပ်ရပ်စဲခြင်း**

၂၇။ စာချုပ်ရပ်စဲခြင်းနှင့်စပ်လျဉ်း၍ ဤစာချုပ်ကို အောက်ပါအကြောင်းရပ် တစ်ခုခုပေါ်ပေါက်ပါက စာချုပ်ရပ်စဲခွင့်ရှိသည့်အပြင် စာချုပ်သက်တမ်းမကုန်ဆုံးမီ စာချုပ်အား ရပ်စဲလိုပါက ရပ်စဲလိုကြောင်း စာချုပ်ဝင်တစ်ဖက်ဖက်မှ ကြိုတင် Notice ပေးရမည်-

(က) မလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့် အငှားချထားခြင်းခံရသည့် စက်ရုံရှိ ပစ္စည်းများ ပျက်စီးဆုံးရှုံးသွား၍ လုပ်ငန်းဆက်လက် ဆောင်ရွက်ရန် မဖြစ်နိုင်တော့ခြင်း၊

(ခ) စာချုပ်သက်တမ်းကုန်ဆုံးခြင်း၊

(ဂ) စာချုပ်ရပ်စဲရန် နှစ်ဦးနှစ်ဖက် ညှိနှိုင်းဖြေရှင်း သဘောတူဆုံးဖြတ်ခြင်း။

(ဃ) "အငှားချထားခြင်းခံရသူ"က လူမွဲအဖြစ် ခံယူသွားခြင်း၊

(င) စာချုပ်ပါစည်းကမ်းတစ်ရပ်ရပ်ကို အငှားချထားခြင်းခံရသူမှ ဖောက်ဖျက်ကျူးလွန်ခြင်း

**မြေသို့ပြန်လည်ဝင်ရောက်ပိုင်ခွင့်**

၂၈။ အငှားချထားခြင်းခံရသူသည် စာချုပ်ပါစည်းကမ်းတစ်ရပ်ရပ်ကို ဆောင်ရွက်ရန် (သို့မဟုတ်) လိုက်နာရန်ပျက်ကွက်ခြင်းကြောင့် အငှားချထားသူက ယင်းကဲ့သို့ ပျက်ကွက်မှုများကို ပြုပြင်ရန်(သို့မဟုတ်) လိုက်နာရန်အငှားချထားခြင်းခံရသူသို့ အကြောင်းကြားစာ ပေးပို့ပြီးနောက် အကြောင်းကြားစာပါ ကာလအတွင်း လိုက်နာမှုမရှိပါက အငှားချထားသူသည် အငှားချထားသည့် မြေနေရာကို ပြန်လည်ဝင်ရောက်လက်ဝယ်ရယူခွင့်ရှိသည်။ သို့ရာတွင် ယင်းသို့ဝင်ရောက်၍ လက်ရောက်ရယူခြင်းသည် အငှားချထားသူက အငှားချထားခြင်းခံရသူထံမှ ရရန်ရှိသော ငှားရမ်းခ (သို့မဟုတ်) ပျက်စီးဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းခံခွင့်ကို ထိခိုက်ခြင်းမရှိစေရ။

**ပျက်ကွက်ခြင်း**

၂၉။ "အငှားချထားသူ"နှင့် "အငှားချထားခြင်းခံရသူ"သည် စာချုပ်ပါစည်းကမ်း ချက်တစ်ရပ်ရပ်ကို ဆောင်ရွက်ရန် (သို့) လိုက်နာရန် ပျက်ကွက်ခြင်းကြောင့် "အငှားချထားခြင်းခံရသူ" (သို့မဟုတ်) "အငှားချထားသူ"က ယင်းကဲ့သို့ ပျက်ကွက်မှုများကို ပြုပြင်ရန် (သို့မဟုတ်) လိုက်နာရန် "အငှားချထားခြင်းခံရသူ" (သို့မဟုတ်) "အငှားချထားသူ" သို့ အကြောင်းကြားစာ ပေးပို့ပြီးနောက် အကြောင်းကြားစာပါ ကာလအတွင်း လိုက်နာမှုမရှိပါက အထက်အပိုဒ်(၁၉)ပါ အငြင်းပွားမှု ဖြေရှင်းသည့် နည်းလမ်းအတိုင်း ဆောင်ရွက်ရမည်။

၃၀။ ဤစာချုပ်တွင်ပါရှိသော နောက်ဆက်တွဲများသည် စာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်သည်။

၃၁။ အထက်ဖော်ပြပါ စည်းကမ်းချက်များကို သဘောတူလက်ခံပါသဖြင့် အောက်ပါအသိသက်သေ အစုံအလင်ရှေ့မှောက်တွင် ၂၀၁၃ ခုနှစ် ဧပြီလ (၃၀)ရက်၌ "အငှားချထား သူ"နှင့် "အငှားချထားခြင်းခံရသူ"တို့ လက်မှတ်ရေးထိုးကြပါသည်-

**အငှားချထားသူ(ကိုယ်စား)**

ဦးရည်မွန်
ဦးဆောင်ညွှန်ကြားရေးမှူး
စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း

**အငှားချထားခြင်းခံရသူ(ကိုယ်စား)**

ဦးဝင်းဆွေ
အုပ်ချုပ်မှုဒါရိုက်တာ
Win & Win Co.,Ltd
အမှတ်(၆)၊(၆)မိုင်ပြည်လမ်း၊ လှိုင်မြို့နယ်

**အသိသက်သေများ**

၁။ ဦးဟန်တင်
ညွှန်ကြားရေးမှူး(ရောင်းချဖြန့်ဖြူးရေးဌာန)
စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း

၂။ ဒေါ်စိုးစိုးဦး
ညွှန်ကြားရေးမှူး(ငွေစာရင်း)
စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း

၃။ ဦးစိုးနီ
အထွေထွေမန်နေဂျာ
စက်ဘီးစက်ရုံ(ကျောက်ဆည်)
စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း

၁။ ဦးသက်ဇော်အောင်
မန်နေဂျာ
Win & Win Co.,Ltd

၂။

## စက်ဘီးစက်ရုံ(ကျောက်ဆည်)

### ၁။ စက်ရုံတည်နေရာ




စက်ဘီးစက်ရုံ (ကျောက်ဆည်)




ကုန်ထုတ်ဌာနခွဲ(၁) (ရန်ကုန်)



၂။ အကျယ်အဝန်း






| | | |
|---|---|---|
| စက်ရုံအမည် | - | စက်ဘီးစက်ရုံ(ကျောက်ဆည်) |
| တည်နေရာ | - | မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ ကျောက်ဆည်မြို့ အရှေ့ဘက် (၅)မိုင် (၁)ဖာလုံ အကွာ |
| အကျယ်အဝန်း | - | မြေဧရိယာ စုစုပေါင်း (၂၇. ၆၅)ဧက |

## ၃။ စက်ရုံ Layout Plan




1. Production Building(300'×100'×12')
2. Production Building(300'×100'×12')
3. Production Building(200'×100'×12') + (140'×100'×12')
4. Production Building (120'×80'×12')
5. Production Building (200'×100'12')
6. Raw Material Store (150'×100'×12') (A)
7. Raw Material Store (150'×100'×12') (B,C)
8. Finished Goods Store (150'×100'×12') (D,E)
9. Over Head Tank (20'×10')
10. Ground Tank (40'×30'×8') (50000 gal)
11. Pump House (20'×20'×10')
12. Transformer House (40'×20'×10') (1500 KVA × 2)
13. Brazing Furnace Building (30'×25'×12')
14. Toilet (50'×10')
15. Gate (16'×12')
16. Car Garage (70'×30'×14')
17. Gas Station (20'×15')
18. Dinning Hall (80'×20'×12')
19. Office (96'×52'×10')
20. Chemical Store (15'×15'×10')
21. Ground Tank (24'×12'×6')(10000 gal)
22. Oil Store (40'×20'×10')

ပုံစံ(၃၃)

တိုင်းအေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ

မန္တလေးတိုင်း၊ မန္တလေးမြို့

## လယ်ယာမြေကိုသတ်မှတ်သည့်နည်းလမ်းအတိုင်းအသုံးချရန်ဆင့်ဆိုသည့်အမိန့်

(အမိန့်အမှတ်၊ ၂၆/၂၀၀၅)

၁၃၆၇-ခုနှစ်၊ ဝါခေါင်လဆုတ် ၁၁ ရက်

၂၀၀၅-ခုနှစ်၊ သြဂုတ်လ ၃၀ ရက်

၁၉၅၃-ခုနှစ်၊ လယ်ယာမြေနိုင်ငံပိုင်ပြုလုပ်ရေးအက်ဥပဒေပုဒ်မ ၃၉ အရ လယ်ယာမြေကိုသတ်မှတ်သည့်နည်းလမ်းအတိုင်း အသုံးချစေရန်ဆင့်ဆိုပေးပိုင်ခွင့်ကိစ္စနှင့်ပတ်သက်၍ ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့ရုံး၏ (၂၂-၁၁-၈၈) ရက်စွဲပါစာအမှတ်၊ ၁၀/၆၀၁-ဆ/အဖရ မြို့ပြင်လုပ်ပိုင်ခွင့်အာဏာအပ်နှင်းချက်အရ အောက်ဖော်ပြပါဇယားတွင်ဖော်ပြသည့်လယ်ယာမြေကို စိုက်ပျိုးမှုအပေါ်ဒေါင်တိုင်(၈)တွင်ဖော်ပြသောနည်းလမ်းအတိုင်းအသုံးချရမည့်မြို့ကျောင်း (၂-၇-၂၀၀၅) ရက်နေ့တွင်ပြုလုပ်သည့်တိုင်းအေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ၊ အစည်းအဝေးအမှတ်စဉ်(၁၀/၂၀၀၅) အစည်းအဝေးဆုံးဖြတ်ချက်အရ စီမံကိန်းမန်နေဂျာ၊ စက်ဘီးစက်ရုံ၊ ကျောက်ဆည်မြို့အား ခွင့်ပြုလိုက်သည်-

| တိုင်း | မြို့နယ် | ကျေးရွာအုပ်စု | ကွင်း/အကွက် | | ဦးပိုင်/ဧရိယာ | | အသုံးချရမည့်နည်းလမ်း | [illegible] |
|---|---|---|---|---|---|---|---|---|
| | | | အမှတ် | အမည် | အမှတ် | ဧက | | |
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ | ၉ |
| မန္တလေး | ကျောက်ဆည် | ကုလားကျောင်း | ၂၁၀-က<br>၂၁၉-ခ<br>။ | ကုလားကျောင်း<br>ကျောက်မြောင်း<br>။ | ၆၊၇၊၈။<br>၁/၁၊၂၊၄၊<br>၅၊၆။<br>[illegible]။ | ၃.၁၈<br>၂၃.၃၁<br>၁.၁၆ | စက်ဘီးစက်ရုံမြေ | ၆၀၉/၂၀၀၄ |
| | | | | | ပေါင်း | ၂၇.၆၅ | | |

မှတ်ချက်။ (က) ဤဇယားတွင်ဖော်ပြသောလယ်ယာမြေကို မြေစာရင်းဦးစီးဌာနစာရင်းတွင် စက်ဘီးစက်ရုံမြေအဖြစ်ပြောင်းလဲရန် ၁၉၅၄-ခုနှစ်၊ လယ်ယာမြေနိုင်ငံပိုင်ပြုလုပ်ရေးနည်းဥပဒေပုဒ်မ ၈၄ အရ ခွင့်ပြုသည်။

(ခ) ဤဇယားအကွက်(၈)၌ဖော်ပြသောနည်းလမ်းအတိုင်း လယ်ယာမြေကိုအသုံးမချလျှင် ဤအမိန့်ကိုအက်ဥပဒေပုဒ်မ ၃၅ အရပယ်ဖျက်မည့်အပြင် ဤအမိန့်ကိုလိုက်နာရန်ပျက်ကွက်သူသည် အက်ဥပဒေပုဒ်မ ၄၈ အရ ပြစ်ဒဏ်ချမှတ်ခြင်းခံရမည်။

(ဂ) အထက်ဖော်ပြပါဦးပိုင်အမှတ်နှင့်ဧရိယာများကို (၂၀၀၂-၂၀၀၃) ခုနှစ်၊ နောက်ဆက်တွဲမြေပုံစာရင်းများမှ ကောက်နုတ်သုံးစွဲသည်။

ဥက္ကဋ္ဌ (ကိုယ်စား)

(ဒုတိယဗိုလ်မှူးကြီးကြည်သန်း၊ အတွင်းရေးမှူး)

စာအမှတ်၊ ၅/၄၃-၂၃၇/ဦး ၆(၄၆၈၉)

ရက်စွဲ၊ ၂၀၀၅-ခုနှစ်၊ သြဂုတ်လ ၃၀ ရက်

မိတ္တူကို -

(၁) လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ ရန်ကုန်

(၂) တိုင်းအထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ ပန္တလေး

(၃) တိုင်းမြေစာရင်းဦးစီးဌာန၊ မန္တလေး (သက်ဆိုင်ရာမြေစာရင်းမြေပုံကူးဖြင့်ကာ ရေးသွင်းနိုင်ရေးအတွက် ညွှန်ကြားပေးသွားရန်။)

(၄) ခရိုင်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ ကျောက်ဆည်

(၅) ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ ကျောက်ဆည်

(၆) ခရိုင်မြေစာရင်းဦးစီးဌာန၊ ကျောက်ဆည်

(၇) မြို့နယ်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ ကျောက်ဆည်

(၈) မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ ကျောက်ဆည်

(၉) မြို့နယ်မြေစာရင်းဦးစီးဌာန၊ ကျောက်ဆည်

(၁၀) ကျေးရွာအုပ်စု အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ ဘုလဘး ကျောင်းကျေးရွာ၊ ကျောက်ဆည်မြို့နယ်

(၁၁) လျှောက်ထားသူ -

ဝမ်မိုက်ကန်း မန်နေဂျာ
ဘက်ဘိုး ဘက်ရုံ၊ ကျောက်ဆည်မြို့။

<u>ကန့်သတ်</u>

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

စက်မှုဝန်ကြီးဌာန

အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

(ယခင်စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း)

နှင့်

Win & Win Co.,Ltd

တို့

ချုပ်ဆိုသော

စက်ဘီးစက်ရုံ(ကျောက်ဆည်)

အား

BOTစနစ်ဖြင့် ငှားရမ်းဆောင်ရွက်သည့် သဘောတူစာချုပ်အပေါ်

သက်တမ်းတိုးမြှင့်သည့် ပထမအကြိမ်ပြင်ဆင်ချက်

သဘောတူစာချုပ်

ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဒီဇင်ဘာ လ ၈ ရက်

<u>ကန့်သတ်</u>







ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

စက်မှုဝန်ကြီးဌာန

အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း(ယခင်စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း)

နှင့်

Win & Win Co.,Ltd တို့ ချုပ်ဆိုထားသော

စက်ဘီးစက်ရုံ(ကျောက်ဆည်) အား BOT စနစ်ဖြင့် ငှားရမ်းသည့် သဘောတူစာချုပ်အပေါ်

သက်တမ်းတိုးမြှင့်သည့် ပထမအကြိမ်ပြင်ဆင်ချက်သဘောတူစာချုပ်

ဤ ပြင်ဆင်ချက် သဘောတူစာချုပ်ကို ၂၀၁၅ ခုနှစ် ဒီဇင်ဘာ လ (၈)ရက်နေ့တွင် နေပြည်တော်ရှိ ဦးသန့်စင်ဦးဆောင်ညွှန်ကြားရေးမှူး ကိုယ်စားပြုသော အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း(ယခင်စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း)(နောင်တွင်"အငှားချထားသူ"ဟုခေါ်ဆိုမည်ဖြစ်ပြီးယင်းစကားရပ်၌ ၎င်းအား ဆက်ခံသူများနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများပါဝင်သည်။) က တစ်ဖက်နှင့် ဦးဝင်းဆွေ အမျိုးသား မှတ်ပုံတင်အမှတ် ၁၂/လသန(နိုင်) ၀၀၇၃၅၇ ကိုယ်စားပြုသော Win & Win Co.,Ltd အမှတ်(၁၉)၊ ၇မိုင်၊ ပြည်လမ်း မရမ်းကုန်းမြို့နယ် ရန်ကုန်တိုင်းဒေသကြီး(နောင်တွင် "အငှားချထားခြင်းခံရသူ"ဟု ခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်၌ ၎င်းအားဆက်ခံသူများ တရားဝင်ကိုယ်စားလှယ်များ၊ ဥပဒေအရ လွှဲအပ်ခြင်းခံရသူများပါဝင်သည်။) က အခြားတစ်ဖက်တို့သည်-

(က) မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ ကျောက်ဆည်မြို့ အရှေ့ဘက်(၅)မိုင် (၁)ဖာလုံအကွာရှိစက်ဘီးစက်ရုံ(ကျောက်ဆည်)၏မြေ(၂၇.၆၅)ဧကနှင့်စက်ရုံအဆောက်အဦးစက်ပစ္စည်းကိရိယာများ၊ ရုံးသုံးပရိဘောဂနှင့် မော်တော်ယာဉ်များကို(၃၀+၁၀+၁၀) နှစ်၊ နှစ်ရှည်နှစ်(၅၀)ထိ BOT စနစ်ဖြင့် ငှားရမ်းခွင့်ကို (၂၅.၇.၂၀၁၃)နေ့ တွင်ပြုလုပ်ခဲ့သော ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေး အမှတ်စဉ် (၂၃/၂၀၁၃)မှ သဘောတူခွင့်ပြုခဲ့ပြီး စက်ဘီးထုတ်လုပ်ခြင်းလုပ်ငန်းနှင့် ဆေးရုံသုံးကုတင်၊ ပရိဘောဂနှင့်အိမ်သုံးပရိဘောဂပစ္စည်းများ ထုတ်လုပ်ပြီး ပြည်တွင်း/ပြည်ပသို့ တင်ပို့ရောင်းချရေး ဆောင်ရွက်ရန် သဘောတူစာချုပ်ကို ၂၀၁၃ ခုနှစ် ဧပြီလ(၃၀)ရက်နေ့တွင် နှစ်ဦးသဘောတူစာချုပ်(နောင်တွင် မူလစာချုပ်ဟုခေါ်ဆိုမည်ဖြစ်ပါသည်။) ချုပ်ဆို၍ လုပ်ငန်းများဆောင်ရွက်ခဲ့ပါသည်။

(ခ) ယင်းသို့ လုပ်ငန်းဆောင်ရွက်ရာတွင် မူလစာချုပ်၏ သက်တမ်းကို ( ၁.၅.၂၀၁၃ )မှ ( ၃၀.၄.၂၀၆၃ )ထိ ( ၅၀ )နှစ်အပေါ် တစ်ကြိမ်လျှင် ( ၁၀ )နှစ်ဖြင့် ( ၂ )ကြိမ် သက်တမ်းတိုးမြှင့်ငှားရမ်းဆောင်ရွက်ရန် ဤပြင်ဆင်ချက်သဘောတူစာချုပ်ကို စာချုပ်ဝင်များအကြား ချုပ်ဆိုခြင်းဖြစ်ပါသည်။

ကန့်သတ်






(ဂ) စက်မှုဝန်ကြီးဌာန၏ ၂၆.၃.၂၀၁၅ ရက်စွဲပါ အမိန့်ကြော်ငြာစာအမှတ်(၁၃၄/၂၀၁၄-၂၀၁၅)အရ အထည်အလိပ်လုပ်ငန်းနှင့် စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း တို့ကို ပူးပေါင်း၍ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း အဖြစ်ပြင်ဆင်ဖွဲ့စည်းခဲ့ပါသည်။

(ဃ) ဤပထမအကြိမ် ပြင်ဆင်ချက် သဘောတူစာချုပ်အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏( ၁၈.၉.၂၀၁၅ )ရက်စွဲပါ ခွင့်ပြုချက်အမိန့်ကြော်ငြာစာအမှတ်၊ ၈၃/၂၀၁၅ (မနသ)နှင့် ( ၂၅.၉.၂၀၁၅ )ရက်စွဲပါ ခွင့်ပြုချက်အမိန့်ကြော်ငြာစာအမှတ် ၈၉/၂၀၁၅ (မနသ) ဖြင့် ခွင့်ပြုခဲ့ပြီး ဖြစ်ပါသည်။

သို့ပါ၍ စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့သည် မူလသဘောတူစာချုပ်ကို ပြင်ဆင်သည့် ဤပထမအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်အား အောက်ပါသဘောတူညီချက်များနှင့်အညီ ချုပ်ဆိုရခြင်း ဖြစ်ပါသည် -

၁။ မူလစာချုပ်၏ ရည်ရွယ်ချက် ခေါင်းစဉ်အောက်ရှိ အပိုဒ်(၁)အားပယ်ဖျက်၍အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည် -

**ရည်ရွယ်ချက်**

၁။ "အငှားချထားသူ"ပိုင်ဆိုင်သောမန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်စက်မှုနယ်မြေရှိ စက်ဘီးစက်ရုံ(ကျောက်ဆည်)၏ မြေ(၂၇.၆၅)ဧကနှင့်စက်ရုံ၊ အဆောက်အဦ၊ စက်ပစ္စည်းကိရိယာများ၊ ရုံးသုံးပရိဘောဂနှင့် မော်တော်ယာဉ်များကို "အငှားချထားခြင်းခံရသူ" မှ ငှားရမ်း၍ စက်ဘီးထုတ်လုပ်ခြင်းလုပ်ငန်းနှင့် ဆေးရုံသုံးကုတင်၊ ပရိဘောဂနှင့်သစ်ပါးလွှာစက်ရုံ၊ ပရိဘောဂနှင့်ကိရိယာ တန်ဆာပလာပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ပြီး ပြည်တွင်း/ပြည်ပသို့တင်ပို့ရောင်းချရေး တိုးချဲ့ဆောင်ရွက်ရန် ရည်ရွယ်၍ ဤသက်တမ်းတိုးမြှင့်ငှားရမ်းသည့် သဘောတူစာချုပ်ကို ချုပ်ဆိုခြင်းဖြစ်ပါသည်။

၂။ မူလစာချုပ်၏ အငှားချထားမည့်ပစ္စည်းများ ခေါင်းစဉ် အပိုဒ်(၃)အောက်ရှိ အပိုဒ်ခွဲ(စ)ပါ မော်တော်ယာဉ်စာရင်း နောက်ဆက်တွဲ(င)အားပယ်ဖျက်၍ အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည် -

(စ) မော်တော်ယာဉ်စာရင်း - နောက်ဆက်တွဲ(င)

၃။ မူလစာချုပ်၏ ငှားရမ်းမည့်အချိန်ကာလ ခေါင်းစဉ်အောက်ရှိ အပိုဒ်(၄)အား ပယ်ဖျက်၍ အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည် -

**ငှားရမ်းမည့်အချိန်ကာလ**

၄။ ငှားရမ်းမည့်အချိန်ကာလမှာ (၁.၅.၂၀၁၃)နေ့မှ (၃၀.၄.၂၀၆၃)ရက်နေ့အထိ (၅၀)နှစ်နှင့် သက်တမ်းတိုးမြှင့်ငှားရမ်းလိုပါက၊ သက်တမ်းတစ်ကြိမ်လျှင် (၁၀)နှစ်ဖြင့်(၂)ကြိမ် သက်တမ်းတိုးမြှင့် ငှားရမ်းနိုင်သည်။

<u>ကန့်သတ်</u>






၄။ မူလစာချုပ်၏ စာချုပ်သက်တမ်း ခေါင်းစဉ်အောက်ရှိ အပိုဒ်(၅)အား ပယ်ဖျက်၍ အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်။

**စာချုပ်သက်တမ်း**

၅။ စာချုပ်သက်တမ်းမှာ (၁.၅.၂၀၁၃)ရက်နေ့မှစ၍ (၃၀.၄.၂၀၆၃)ရက်နေ့အထိ BOTစနစ်ဖြင့်(၅၀)နှစ်နှင့် သက်တမ်းတိုးမြှင့်ငှားရမ်းလိုပါက၊ သက်တမ်းတစ်ကြိမ်လျှင်(၁၀)နှစ်ဖြင့် (၂)ကြိမ်သက်တမ်းတိုးမြှင့် ငှားရမ်းနိုင်သည်။

၅။ မူလစာချုပ်ပါ လွှဲပြောင်းပေးမည့်ဝန်ထမ်း ခေါင်းစဉ်နှင့်ခေါင်းစဉ်အောက်ရှိ အပိုဒ်(၆) အားပယ်ဖျက်၍ အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

**ပြင်ပဝန်ထမ်းစည်းကမ်းချက်ဖြင့် လွှဲပြောင်းပေးမည့် ဝန်ထမ်း**

၆။ ပြင်ပဝန်ထမ်းစည်းကမ်းချက်ဖြင့် လွှဲပြောင်းပေးမည့် ဝန်ထမ်းအင်အားမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

| စဉ် | လစာနှုန်း | လူဦးရေ |
|---|---|---|
| (က) | ၃၄၀၀၀၀-၄၀၀၀-၃၆၀၀၀၀ | ၁ ဦး |
| (ခ) | ၃၁၀၀၀၀-၄၀၀၀-၃၃၀၀၀၀ | ၁ ဦး |
| (ဂ) | ၂၈၀၀၀၀-၄၀၀၀-၃၀၀၀၀၀ | ၁ ဦး |
| (ဃ) | ၂၅၀၀၀၀-၄၀၀၀-၂၇၀၀၀၀ | ၃ ဦး |
| (င) | ၁၉၅၀၀၀-၂၀၀၀-၂၀၅၀၀၀ | ၈ ဦး |
| (စ) | ၁၈၀၀၀၀-၂၀၀၀-၁၉၀၀၀၀ | ၈ ဦး |
| (ဆ) | ၁၆၅၀၀၀-၂၀၀၀-၁၇၅၀၀၀ | ၃၉ ဦး |
| (ဇ) | ၁၅၀၀၀၀-၂၀၀၀-၁၆၀၀၀၀ | ၄၃ ဦး |
| (ဈ) | ၁၃၅၀၀၀-၂၀၀၀-၁၄၅၀၀၀ | ၆၂ ဦး |
| (ည) | ၁၂၀၀၀၀-၂၀၀၀-၁၃၀၀၀၀ | ၁၁ ဦး |
| (ဋ) | နေ့စား ၃၀၀၀/ | ၁ |
| **စုစုပေါင်း** | | ၁၇၈ ဦး |

ကန့်သတ်







၆။ မူလစာချုပ် အပိုဒ်(၇)နှင့်အပိုဒ်ခွဲ(ဈ)ပါ **လွှဲပြောင်းပေးမည့်ဝန်ထမ်းများ** စာသားအစား **ပြင်ပဝန်ထမ်း စည်းကမ်းချက်ဖြင့် လွှဲပြောင်းပေးမည့် ဝန်ထမ်းများ** ကိုအစားထိုးပြင်ဆင်ရမည်၊

၇။ မူလစာချုပ်၏ ငှားရမ်းခနှုန်းထား ခေါင်းစဉ်အောက်ရှိ အပိုဒ်(၉)အား ပယ်ဖျက်၍ အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည် -

**ငှားရမ်းခနှုန်းထား**

၉။ ငှားရမ်းခနှုန်းထားအား(၂)နှစ် တစ်ကြိမ်ပြန်လည်သုံးသပ်၍ ငှားရမ်းခတန်ဘိုး၏ (၂%) မှ(၅%)အတွင်း နှစ်ဖက်ညှိနှိုင်း၍ စက်မှုဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီသို့ တင်ပြအတည်ပြုချက်ရယူ၍ ပြင်ဆင်သတ်မှတ်နိုင်သည်၊

၈။ မူလစာချုပ်၏ ငှားရမ်းခပေးချေခြင်း ခေါင်းစဉ်အောက်ရှိ အပိုဒ်(၁၀)နှင့်(၁၁)အား ပယ်ဖျက်၍ အောက်ပါစာပိုဒ်များဖြင့် အစားထိုးပြင်ဆင်ရမည် -

**ငှားရမ်းခပေးချေခြင်း**

၁၀။ "အငှားချထားခြင်းခံရသူ"သည် ငှားရမ်းခကျသင့်ငွေကို (၃)လတစ်ကြိမ် ပထမလ၏ (၁၅)ရက်အတွင်း ပေးသွင်းရမည်။ ပေးသွင်းရန်ပျက်ကွက်ပါက နောက်ကျဒဏ်ကြေးအဖြစ် (၁)လနောက်ကျတိုင်း (၃)လ အတွက် ပေးသွင်းရမည့်ငှားရမ်းခကျသင့်ငွေ၏ (၀.၅%)(သုညဒသမငါးရာခိုင်နှုန်း)ကိုဒဏ်ကြေးအဖြစ်သတ်မှတ်၍ နောက်ကျသည့်ရက်များအတွက် နောက်ကျဒဏ်ကြေးအား (၁)လ နောက်ကျပါက ပေးသွင်းရမည့် သတ်မှတ်ချက်ဖြစ်သော ငှားရမ်းခ(၃)လ အတွက် ကျသင့်ငွေ၏ (၀.၅%)ကိုအခြေခံ၍ တွက်ချက်ပေးဆောင်ရမည်။

၁၁။ "အငှားချထားသူ"နှင့်"အငှားချထားခြင်းခံရသူ"သည် လိုအပ်ပါက (၂)နှစ်လျှင်(၁) ကြိမ် လုပ်ငန်းဆောင်ရွက်မှု အခြေအနေများအား ပြန်လည်သုံးသပ်၍ စာချုပ်ဝင်နှစ်ဦးနှစ်ဖက်သဘောတူညီပါကငှားရမ်းခပေးချေမည့်အစီအစဉ်အား စက်မှုဝန်ကြီးဌာန စီမံခန့်ခွဲရေးကော်မတီ၏ဆုံးဖြတ်မှုနှင့် ပြန်လည်ပြင်ဆင် ဆောင်ရွက်နိုင်သည်၊

၉။ မူလစာချုပ်၏ စာချုပ်သက်တမ်းတိုးခြင်း ခေါင်းစဉ်အောက်ရှိ အပိုဒ်(၁၇)အား ပယ်ဖျက်၍ အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည် -

**စာချုပ်သက်တမ်းတိုးခြင်း**

၁၇၊ " အငှားချထားခြင်းခံရသူ "သည် မူလ( ၅၀ )နှစ်ငှားရမ်းပြီးနောက် နောက်ထပ်စာချုပ်သက်တမ်းတိုးခြင်းသည်(၁၀)နှစ်(၂)ကြိမ်သာဖြစ်သည်။သက်တမ်းတိုးဆောင်ရွက်ခြင်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြ၍ ခွင့်ပြုချက်ရရှိပြီးမှသာ အတည်ဖြစ်သည်။

<u>ကန့်သတ်</u>

အထူးကပ်တံဆိပ်ခေါင်း SPECIAL ADHESIVE ၅၀၀၀ကျပ် K 5000

အထူးကပ်တံဆိပ်ခေါင်း SPECIAL ADHESIVE ၅၀၀၀ကျပ် K 5000

၁၀။ မူလစာချုပ်၏ ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း ခေါင်းစဥ်အောက်ရှိအပိုဒ်(၁၈)အားပယ်ဖျက်၍ အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

**ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း**

၁၈။ "အငှားချထားခြင်းခံရသူ"သည် မူလ ငှားရမ်းခြင်း (၅၀)နှစ်ပြည့်ပြီးနောက် (၁၀)နှစ် သက်တမ်းနှစ်ကြိမ်တိုးမြှင့်ငှားရမ်းပြီး ငှားရမ်းခြင်းကာလ ကုန်ဆုံးသည့်အခါဖြစ်စေ ငှားရမ်းခြင်းရပ်စဲသည့်အခါဖြစ်စေ ယင်းသို့ကုန်ဆုံးသည့်နေ့(သို့မဟုတ်)ရပ်စဲသည့်နေ့မှ (၃၀)ရက်အတွင်းအငှားချထားသည့် စက်ရုံ မြေ၊ အဆောက်အဦနှင့်စက်ကိရိယာများကို "အငှားချထားသူ"သို့အဖိုးစားနားမပါရှိဘဲ ကောင်းမွန်သောအနေအထားဖြင့် ပြန်လည်လွှဲပြောင်းပေးအပ်ရမည်။ သို့ရာတွင် အကျိုးအကြောင်း ဆီလျော်မှုရှိသော ပျက်စီးမှုများအတွက်ပြောင်းလဲမှုများကို ခွင့်ပြုလက်ခံနိုင်သည်။ အကယ်၍ အသုံးပြုလိုခြင်းမရှိသော စက်ပစ္စည်းကိရိယာများ၊ ရုံးသုံးပစ္စည်းများနှင့် အခြားပရိဘောဂများရှိပါက အငှားချထားသူသို့ ညှိနှိုင်း၍ စနစ်တကျလွှဲပြောင်းပေးနိုင်ပါသည်။ အငှားချထားသည့် စက်ရုံတွင် တပ်ဆင်မှုများ၊ ပုံစံပြောင်းလဲမှုနှင့် တိုးချဲ့မှုများအားလုံးသည် ငှားရမ်းခြင်းစာချုပ် သက်တမ်းကုန်ဆုံးသည့်အချိန်တွင် အခကြေးငွေပေးရန်မလိုဘဲ "အငှားချထားသူ" ပိုင်ပစ္စည်းများ အလိုအလျောက်ဖြစ်လာရမည်။ အကယ်၍ မိမိတပ်ဆင်ထားသောပစ္စည်းများအား အငှားချထားသည့် အဆောက်အဦလွှဲပြောင်းချိန်တွင် ပြန်လည်ဖြုတ်ယူသွားလိုပါက ယင်းပစ္စည်းများအား တပ်ဆင်ခြင်းမပြုမီကတည်းက နှစ်ဖက်ညှိနှိုင်းအတည်ပြုချက်ရယူထားရမည်။ သို့ရာတွင် လေအေးပေးစက်များ၊ လျှပ်စစ်ယပ်စက်များနှင့် အခြားရွှေ့ပြောင်းနိုင်သည့်ပစ္စည်းများကိုမူ ထားခဲ့ရန်မလိုဘဲ ဖြုတ်ယူသွားနိုင်သည်၊

၁၁။ မူလစာချုပ်တွင်မပါဝင်သော အာမခံထားရှိခြင်း ခေါင်းစဥ်အား အပိုဒ်(၂၆)အဖြစ် အောက်ပါ စာပိုဒ်ဖြင့် ထပ်မံဖြည့်စွက်ရမည်-

**အာမခံထားရှိခြင်း**

၂၆၊ အငှားချထားခြင်းခံရသူသည် တစ်နှစ်ငှားရမ်းခ၏ ၁၀% နှင့် ညီမျှသော တန်ဖိုးအား လုပ်ငန်းဆောင်ရွက်မှုအာမခံ(Performance Bank Guarantee)အဖြစ်မြန်မာ့စီးပွားရေးဘဏ်၊ဘဏ်ခွဲ(၃) ရန်ကုန်မြို့ (သို့မဟုတ်) မြန်မာ့စီးပွားရေးဘဏ်(နေပြည်တော်)တွင် အပ်နှံထားရှိ၍ ထားရှိမှုမှတ်တမ်းအား အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း(ယာဉ်စက်ကူနှင့် အိမ်သုံးပစ္စည်းလုပ်ငန်း)တွင်သိမ်းဆည်းထား ရှိရမည်။ "အငှားချထားခြင်းခံရသူ" သည် စာချုပ်ပါ စည်းကမ်းချက်တစ်ရပ်ရပ်ကို ဖောက်ဖျက်ပါက "အငှားချထားသူ"အနေဖြင့် အဆိုပါလုပ်ငန်းဆောင်ရွက်မှုအာမခံအားနိုင်ငံတော်ဘဏ္ဍာငွေအဖြစ် သိမ်းဆည်းနိုင်သည်။ အဆိုပါ လုပ်ငန်းဆောင်ရွက်မှုအာမခံအား ဤစာချုပ်အကျိုးသက်ရောက်သည့်နေ့မှစ၍ (၄၅)ရက်အတွင်း ပေးဆောင်ရမည်။

<u>ကန့်သတ်</u>

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
အထူးကပ်တံဆိပ်ခေါင်း
SPECIAL ADHESIVE
၅၀၀၀ကျပ် K 5000

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
အထူးကပ်တံဆိပ်ခေါင်း
SPECIAL ADHESIVE
၅၀၀၀ကျပ် K 5000

၁၂။ မူလစာချုပ်တွင်မပါဝင်သော ကုန်သွယ်လုပ်ငန်းခွန်ပေးဆောင်ခြင်း ခေါင်းစဉ်အား အပိုဒ်(၂၇) အဖြစ် အောက်ပါစာပိုဒ်ဖြင့် ထပ်မံဖြည့်စွက်ရမည်-

**ကုန်သွယ်လုပ်ငန်းခွန်ပေးဆောင်ခြင်း**

၂၇။ အငှားချထားခြင်းခံရသူသည်(၁)လတစ်ကြိမ်ပေးချေရမည့် ငှားရမ်းခ၏ (၅%)နှင့်ညီမျှသော တန်ဖိုးအား ကုန်သွယ်လုပ်ငန်းခွန်အဖြစ် (၁)လပြည့်တိုင်း ပြည်တွင်းအခွန်များဦးစီးဌာန နေပြည်တော် (သို့မဟုတ်) ရန်ကုန်မြို့တွင် ပေးဆောင်ပြီး ပေးဆောင်မှုမှတ်တမ်းအား အမှတ် ( ၃ ) အကြီးစားစက်မှုလုပ်ငန်း ( ယာဉ်စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း )တွင် သိမ်းဆည်းထားရှိရမည်၊ သို့ဖြစ်ပါ၍အခွန်အကောက်ဆိုင်ရာဥပဒေအရပေးဆောင်ရမည့် အခွန်များအား "အငှားချထားခြင်းခံရသူ" မှ ပေးသွင်းရပါမည်၊

၁၃။ မူလစာချုပ်၏ အပိုဒ်(၂၆)မှ(၃၁)အား အပိုဒ်(၂၈)မှ(၃၃)အဖြစ် အစီအစဉ်အတိုင်း ပြောင်းလဲပြင်ဆင်ရမည်။

၁၄။ ဤ ပထမအကြိမ် သက်တမ်းတိုးမြှင့်ပြင်ဆင်ချက် သဘောတူစာချုပ်သည် ၂၀၁၅ ခုနှစ် နိုဝင်ဘာ လ( ၈ )ရက်နေ့မှစ၍ အကျိုးသက်ရောက်မှု ရှိစေရမည်၊

၁၅။ ဤစာချုပ်ပါ စည်းကမ်းချက်မှတစ်ပါး မူလစာချုပ်ပါ ကျန်စည်းကမ်းချက်များမှာ ပြောင်းလဲမှုမရှိဘဲ ဆက်လက်၍ အကျိုးသက်ရောက်မှုရှိစေရမည်။

၁၆။ ဤ ပထမအကြိမ် သက်တမ်းတိုးမြှင့်ပြင်ဆင်ချက် သဘောတူစာချုပ်တွင် ပါရှိသော နောက်ဆက်တွဲများသည် မူလစာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်သည်။

၁၇။ ဤ ပထမအကြိမ်သက်တမ်းတိုးမြှင့်ပြင်ဆင်ချက် သဘောတူစာချုပ်သည် မူလစာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်သည်။

၁၈။ ဤ ပထမအကြိမ် သက်တမ်းတိုးမြှင့်ပြင်ဆင်ချက် သဘောတူစာချုပ်သည် နိုင်ငံတော်မှုဝါဒအရ ပြင်ဆင်ရန်လိုအပ်ပါက နှစ်ဦးနှစ်ဖက်ညှိနှိုင်း၍ ပြင်ဆင်ချုပ်ဆိုနိုင်သည်။

၁၉။ ဤ ပထမအကြိမ် သက်တမ်းတိုးမြှင့်ပြင်ဆင်ချက်သဘောတူစာချုပ်အား ၂၀၁၅ခုနှစ် နိုဝင်ဘာ လ ( ၈ )ရက်နေ့ တွင်"အငှားချထားသူ"နှင့်"အငှားချထားခြင်းခံရသူ"တို့ တစ်ဘက်ပါအသိသက်သေများ ရှေ့မှောက်တွင် သဘောတူလက်မှတ်ရေးထိုးကြပါသည်


အထူးကပ်တံဆိပ်ခေါင်း
SPECIAL ADHESIVE
၂၀၀၀ကျပ် K 2000


ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
အထူးကပ်တံဆိပ်ခေါင်း
SPECIAL ADHESIVE
၁၀၀ကျပ် K 100

ကန့်သတ်

၇

| အငှားချထားသူ(ကိုယ်စား) | အငှားချထားခြင်းခံရသူ(ကိုယ်စား) |
| --- | --- |
| ဦးသန့်စင်<br>ဦးဆောင်ညွှန်ကြားရေးမှူး<br>အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း<br>(ယခင်စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း) | ဦးဝင်းဆွေ<br>အုပ်ချုပ်မှုဒါရိုက်တာ၊<br>Win & Win Co.,Ltd |

အသိသက်သေ

| | |
| --- | --- |
| ဒေါက်တာစိုးနိုင်<br>အထွေထွေမန်နေဂျာ<br>နည်းပညာဖွံ့ဖြိုးရေးဌာန<br>အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း<br>(ယခင်စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း) | ဦးအောင်ကျော်ထွန်း<br>ဒါရိုက်တာ<br>Win & Win Co.,Ltd |
| ဦးသန်းထွန်း<br>အထွေထွေမန်နေဂျာ<br>အရည်အသွေးထိန်းသိမ်းရေးဌာန<br>အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း<br>(ယခင်စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း) | ဦးဟန်တင်<br>မန်နေဂျာ<br>Win & Win Co.,Ltd |

ကန့်သတ်

ကန့်သတ်



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

## စက်မှုဝန်ကြီးဌာန

## အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

နှင့်

**Win & Win Co., Ltd.** တို့ ချုပ်ဆိုသော

စက်ဘီးစက်ရုံ(ကျောက်ဆည်)အား

ငှားရမ်းသည့် မူလသဘောတူစာချုပ်အပေါ်

နောက်ဆက်တွဲ သဘောတူစာချုပ်(မူကြမ်း)

ရက်စွဲ၊ ၂၀၁၉ ခုနှစ်      လ      ရက်

ကန့်သတ်

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

စက်မှုဝန်ကြီးဌာန

အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

နှင့်

Win & Win Co., Ltd. တို့ ချုပ်ဆိုထားသော

စက်ဘီးစက်ရုံ(ကျောက်ဆည်)အား ငှားရမ်းသည့် မူလသဘောတူစာချုပ်အပေါ်

နောက်ဆက်တွဲသဘောတူစာချုပ်

၁။ ဤနောက်ဆက်တွဲ သဘောတူစာချုပ်သည် စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစား စက်မှုလုပ်ငန်းနှင့် Win & Win Co., Ltd. တို့သည် ၃၀.၄.၂၀၁၃ ရက်နေ့တွင် မူလစာချုပ်ကို နှစ်ဦး နှစ်ဖက်ချုပ်ဆိုခဲ့ပြီး ၈.၁၂.၂၀၁၅ ရက်နေ့တွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့် အရ ပထမအကြိမ်ပြင်ဆင်စာချုပ် ချုပ်ဆိုခဲ့ပါသည်။ ယခုချုပ်ဆိုသည့်စာချုပ်သည် ယခင်ချုပ်ဆိုခဲ့ ပြီးသော မြေ၊ အဆောက်အဦနှင့် စက်ပစ္စည်းများအား ငှားရမ်းသည့် သဘောတူစာချုပ်များ၏ နောက်ဆက်တွဲသဘောတူစာချုပ် ဖြစ်သည်။

၂။ မူလစာချုပ်၏ "အငှားချထားခြင်းခံရသူ၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ" ခေါင်းစဉ်ပါ အပိုဒ်၊ ၁၂(ခ)တွင် "ငှားရမ်းခွင့်ရရှိထားသော စက်ဘီးစက်ရုံ(ကျောက်ဆည်)ရှိ မြေနှင့် အဆောက် အဦတွင် ကနဦးတင်ပြထားသော လုပ်ငန်းများအပြင် ဥပဒေနှင့်မငြိစွန်းသည့် အခြားလုပ်ငန်း များကို တိုးချဲ့လုပ်ကိုင်လိုပါက "အငှားချထားသူ"သို့ ညှိနှိုင်းဆောင်ရွက်ခွင့်ရှိသည်။" ဟူ၍ လည်းကောင်း၊ အပိုဒ်၊ ၁၂(င)တွင် "တိုးချဲ့လုပ်ကိုင်မည့် ကုန်ထုတ်လုပ်ငန်းများ၊ ဝန်ဆောင်မှု လုပ်ငန်းများအတွက် လိုအပ်သည့် စက်ပစ္စည်းအသစ်များ တပ်ဆင်ခြင်းနှင့် အဆောက်အဦ အသစ်များ ဆောက်လုပ်ရန်ရှိပါက "အငှားချထားသူ"သို့ ညှိနှိုင်းဆောင်ရွက်ရမည်။" ဟူ၍ လည်းကောင်း ဖော်ပြပါရှိပါသည်။

၃။ Win & Win Co., Ltd. သည် မူလစာချုပ်၏ အပိုဒ်၊ ၁၂(ခ)နှင့် အပိုဒ်၊ ၁၂(င)ပါ ဖော်ပြချက်များအရ မူလစာချုပ်၏ ရည်ရွယ်ချက်ပါ လုပ်ငန်းများအပြင် CMP စနစ်ဖြင့် ဖိနပ်နှင့် ဖိနပ်ထည့်အိတ်များ ထုတ်လုပ်ခြင်းလုပ်ငန်း ထပ်တိုးဆောင်ရွက်ရန် ၂၀၁၉ ခုနှစ် ဧပြီလ (၁၁)ရက် နေ့တွင် ကျင်းပပြုလုပ်သော စက်မှုဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီအစည်းအဝေးအမှတ်စဉ် (၁၄/၂၀၁၈-၂၀၁၉)မှ သဘောတူခွင့်ပြုခဲ့ပါသည်။

ကန့်သတ်

၄။ ဤနောက်ဆက်တွဲ သဘောတူစာချုပ်ပါ CMP စနစ်ဖြင့် ဖိနပ်နှင့်ဖိနပ်ထည့်အိတ်များ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် မြန်မာနိုင်ငံရင်းနှီးမှုကော်မရှင်၏ --.--.၂၀၁၉ ရက်စွဲပါ ခွင့်ပြုမိန့်အမှတ်၊ ---/၂၀၁၉ မှ သဘောတူခွင့်ပြုခဲ့ပါသည်။

၅။ ဤနောက်ဆက်တွဲသဘောတူစာချုပ် ချုပ်ဆိုခွင့်ကို ၂၀၁၉ ခုနှစ် ---------လ(--) ရက်နေ့တွင် ကျင်းပပြုလုပ်သော စက်မှုဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီအစည်းအဝေး အမှတ်စဉ် (--/၂၀၁၈-၂၀၁၉)မှ သဘောတူခွင့်ပြုခဲ့ပါသည်။

၆။ "အငှားချထားခြင်းခံရသူ"အနေဖြင့် ငှားရမ်းခွင့်ရရှိထားသော စက်ရုံ၊ မြေနှင့် အဆောက်အဦတွင် ကနဦးတင်ပြထားသော လုပ်ငန်းများအပြင် ဥပဒေနှင့်မငြိစွန်းသည့် အခြား လုပ်ငန်းများကို တိုးချဲ့လုပ်ကိုင်လိုပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပြည်တွင်း၊ ပြည်ပရင်းနှီးမြှုပ်နှံသူ များကို ဖိတ်ခေါ်၍ "အငှားချထားသူ"သို့ ညှိနှိုင်းဆောင်ရွက်ခွင့်ရှိသည်။

၇။ "အငှားချထားခြင်းခံရသူ"သည် CMP စနစ်ဖြင့် ဖိနပ်နှင့်ဖိနပ်ထည့်အိတ်များ ထုတ်လုပ်ခြင်းလုပ်ငန်းအတွက် အမေရိကန်ဒေါ်လာ(၅.၁)သန်းကို ရင်းနှီးမြှုပ်နှံမှုအဖြစ် (၅)နှစ်အတွင်း တာဝန်ယူထည့်ဝင်ရမည်။

၈။ "အငှားချထားခြင်းခံရသူ"သည် CMP စနစ်ဖြင့် ဖိနပ်နှင့်ဖိနပ်ထည့်အိတ်များ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေရန် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာနမှ ထုတ်ပြန်ထားသည့် ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်ရမည်။

၉။ "အငှားချထားခြင်းခံရသူ"သည် CMP စနစ်ဖြင့် ဖိနပ်နှင့်ဖိနပ်ထည့်အိတ်များ ထုတ်လုပ်ခြင်းလုပ်ငန်းမှ ရရှိလာမည့် အကျိုးအမြတ်၏(၃%)နှင့် ညီမျှသောငွေ (သို့မဟုတ်) တစ်နှစ်လျှင် ကျပ်(၁၂၀.၀၀)သိန်း (လစဉ် ကျပ်(၁၀.၀၀)သိန်း)အနက် များရာတန်ဖိုးကို စက်မှုဝန်ကြီးဌာနသို့ Profit Sharing အဖြစ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ စီးပွားဖြစ်လုပ်ငန်းစတင် ဆောင်ရွက်ရန် သတ်မှတ်သည့်နေ့မှစ၍ "အငှားချထားသူ" သို့ နှစ်စဉ်ခွဲဝေပေးရမည်။

၁၀။ "အငှားချထားခြင်းခံရသူ"သည် CMP စနစ်ဖြင့် ဖိနပ်နှင့်ဖိနပ်ထည့်အိတ်များ ထုတ်လုပ်ခြင်းလုပ်ငန်း၏ Annual Financial Report အား "အငှားချထားသူ"၏ စာရင်းစစ်ဆေးရေးအဖွဲ့မှ စစ်ဆေးခံနိုင်ရန် Audit Firm ဖြင့် စနစ်တကျပြုလုပ်ရမည်။ "အငှားချထားခြင်းခံရသူ"မှ ဆောင်ရွက်သည့်လုပ်ငန်း၏ Annual Financial Report အား "အငှားချထားသူ" ၏ စီမံခန့်ခွဲရေး အဖွဲ့မှ စစ်ဆေးအတည်ပြုပြီးနောက် အကျိုးအမြတ်ခွဲဝေမှုကို သတ်မှတ်ထားသည့်နှုန်းထား အတိုင်း"အငှားချထားသူ" သို့ (၁)လအတွင်း ပေးသွင်းရမည်။

၁၁။ ဤနောက်ဆက်တွဲ သဘောတူစာချုပ်သည် နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုးသည့်နေ့မှစ၍ အကျိုးသက်ရောက်မှု ရှိစေရမည်။

၁၂။ ဤနောက်ဆက်တွဲ သဘောတူစာချုပ်ပါ စည်းကမ်းချက်များမှအပ မူလစာချုပ်ပါကျန်စည်းကမ်းချက်များမှာ ပြောင်းလဲမှုမရှိဘဲ ဆက်လက်၍ အကျိုးသက်ရောက်မှုရှိစေရမည်။

၁၃။ ဤနောက်ဆက်တွဲ သဘောတူစာချုပ်အား ၂၀၁၉ ခုနှစ် လ ရက်နေ့တွင် "အငှားချထားသူ" နှင့် "အငှားချထားခြင်းခံရသူ"တို့ အောက်ပါအသိသက်သေများ ရှေ့မှောက်တွင် သဘောတူလက်မှတ်ရေးထိုးကြပါသည်-

| အငှားချထားသူ(ကိုယ်စား) | အငှားချထားခြင်းခံရသူ(ကိုယ်စား) |
|---|---|
| သိန်းဟန်<br>ဦးဆောင်ညွှန်ကြားရေးမှူး<br>အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း | ဝင်းဆွေ<br>၁၂/လသန(နိုင်)၀၀၇၃၅၇<br>အုပ်ချုပ်မှုဒါရိုက်တာ<br>အမှတ်(၆)၊ (၆)မိုင်၊ ပြည်လမ်း၊<br>လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။<br>Win & Win Co., Ltd. |

အသိသက်သေများ

| | |
|---|---|
| မောင်မောင်သန့်<br>အထွေထွေမန်နေဂျာ<br>နည်းပညာဖွံ့ဖြိုးရေးဌာန<br>အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း | အောင်ကျော်ထွန်း<br>၁၂/မဂတ(နိုင်)၀၈၂၁၃၈<br>ဒါရိုက်တာ<br>အမှတ်(၆)၊ (၆)မိုင်၊ ပြည်လမ်း၊<br>လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။<br>Win & Win Co., Ltd. |

ဝင်းအောင်
အထွေထွေမန်နေဂျာ
စီမံရေးဌာန
အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

ဟန်တင်
၁၂/ဒဂန(နိုင်)၀၁၂၄၁၆
မန်နေဂျာ
အမှတ်(13-A)၊ သဇင်လမ်း၊
ရွှေကြာပင်ရပ်ကွက်၊ဇမ္ဗူသီရိမြို့နယ်၊
နေပြည်တော်။

တင်မောင်မြင့်
အထွေထွေမန်နေဂျာ
အရည်အသွေးထိန်းသိမ်းရေးဌာန
အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

ခင်ခင်ချို
အထွေထွေမန်နေဂျာ
ဘဏ္ဍာရေးဌာန
အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

ကျော်ဟန်
အထွေထွေမန်နေဂျာ
ထုတ်လုပ်ရေးဌာန
အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

# BICYCLE FACTORY (KYAUKSE) GOOGLE MAP




စက်ဘီးစက်ရုံ(ကျောက်ဆည်)၏ တည်နေရာပြမြေပုံ

# စက်ဘီးစက်ရုံ(ကျောက်ဆည်)တွင် ဖိနပ်လုပ်ငန်းဆောင်ရွက်မည့် တည်နေရာပြပုံ




CMP ဖိနပ်ချုပ်လုပ်ငန်းဆောင်ရွက်မည့်နေရာ (၁၃.၈)ဧက

CMP စနစ်ဖြင့် ဖိနပ်နှင့် ဖိနပ်ထည့် အိတ်ချုပ်လုပ်ငန်း ဆောင်ရွက်မည့် အဆောက်အဦများပုံ



CMP စနစ်ဖြင့် ဖိနပ်နှင့် ဖိနပ်ထည့် အိတ်ချုပ်လုပ်ငန်း ဆောင်ရွက်မည့် အဆောက်အဦများပုံ



CMP စနစ်ဖြင့် ဖိနပ်နှင့် ဖိနပ်ထည့် အိတ်ချုပ်လုပ်ငန်း ဆောင်ရွက်မည့် အဆောက်အဦများပုံ



CMP စနစ်ဖြင့် ဖိနပ်နှင့် ဖိနပ်ထည့် အိတ်ချုပ်လုပ်ငန်း ဆောင်ရွက်မည့် အဆောက်အဦများပုံ



CMP စနစ်ဖြင့် ဖိနပ်နှင့် ဖိနပ်ထည့် အိတ်ချုပ်လုပ်ငန်း ဆောင်ရွက်မည့် အဆောက်အဦများပုံ



CMP စနစ်ဖြင့် ဖိနပ်နှင့် ဖိနပ်ထည့် အိတ်ချုပ်လုပ်ငန်း ဆောင်ရွက်မည့် အဆောက်အဦများပုံ



CMP စနစ်ဖြင့် ဖိနပ်နှင့် ဖိနပ်ထည့် အိတ်ချုပ်လုပ်ငန်း ဆောင်ရွက်မည့် အဆောက်အအဦများပုံ



CMP စနစ်ဖြင့် ဖိနပ်နှင့် ဖိနပ်ထည့် အိတ်ချုပ်လုပ်ငန်း ဆောင်ရွက်မည့် အဆောက်အဦများပုံ



CMP စနစ်ဖြင့် ဖိနပ်နှင့် ဖိနပ်ထည့် အိတ်ချုပ်လုပ်ငန်း ဆောင်ရွက်မည့် အဆောက်အဦများပုံ





# Win&Win Co., Ltd.


No.6, 6 Mile, Pyay Road,
Hlaing Tsp, Yangon, Myanmar
Phone : + 95 1 500894
Fax : + 95 1 507443
Email : zbl@ytp.com.mm
Website : www.winandwingroup.com


သို့

ဦးဆောင်ညွှန်ကြားရေးမှူး
အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း
စက်မှုဝန်ကြီးဌာန
နေပြည်တော်

စာအမှတ်॥ ॥ ၀၃၉/ဝင်းဝင်း/ထွေ/၂၀၁၉॥
ရက်စွဲ ॥ ॥ ၂၀၁၉ ခုနှစ်၊ လ၊ ( ) ရက်॥

အကြောင်းအရာ॥ **॥မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်တွင် (CMP)စနစ်ဖြင့် ဖိနပ်နှင့်ဖိနပ်ထည့်အိတ်များချုပ်လုပ်၍ ပြည်ပသို့ ပြန်လည်တင်ပို့ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုမိန့်ဖြင့်ဆောင်ရွက်နိုင်ရန် ပုံစံ(၂)အား တင်ပြခြင်း။**

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ကျွန်တော်များ“**ဝင်းနှင့်ဝင်းကုမ္ပဏီလီမိတက်** ”သည် **မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ ကျောက်ဆည်မြို့အရှေ့ဘက်၊ ၅ မိုင် ၁ ဖာလုံခန့်တွင် တည်ရှိသော စက်ဘီးစက်ရုံနယ်မြေအတွင်း မြေဧက(၁၃. ၈၀)ပေါ်တွင် ဖိနပ်နှင့်ဖိနပ်ထည့်အိတ်များချုပ်လုပ်၍ ပြည်ပသို့ ပြန်လည်တင်ပို့ခြင်းလုပ်ငန်းကို** ဆောင်ရွက်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြမည့်အဆိုပြုချက်ပုံစံ(၂)ကို ပြုစုပြီးဖြစ်ပါသဖြင့် လိုအပ်သလို ဆက်လက်ဆောင်ရွက်ပေးနိုင်ပါရန် ပူးတွဲတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

WIN SWE
(Managing Director)
Win & Win Co., Ltd



Win&Win Co., Ltd.

No.6, 6 Mile, Pyay Road,
Hlaing Tsp, Yangon, Myanmar
Phone : + 95 1 500894
Fax : + 95 1 507443
Email : zbl@ytp.com.mm
Website : www.winandwingroup.com

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့။

စာအမှတ် ။ ။ ၀၄၀/ဝင်းဝင်း/ထွေ/၂၀၁၉။

ရက်စွဲ ။ ။ ၂၀၁၉ ခုနှစ် ၊ လ ( )ရက်။

အကြောင်းအရာ။ **။မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်တွင် (CMP)စနစ်ဖြင့် ဖိနပ်နှင့်ဖိနပ်ထည့်အိတ်များချုပ်လုပ်၍ ပြည်ပသို့ ပြန်လည်တင်ပို့ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုမိန့်ဖြင့်ဆောင်ရွက်နိုင်ရန် ပုံစံ(၂)အား တင်ပြခြင်း။**

၁။ ကျွန်တော်များ **ဝင်းနှင့်ဝင်းကုမ္ပဏီလီမိတက်** သည် မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ ကျောက်ဆည်မြို့အရှေ့ဘက် ၅မိုင်၁ဖာလုံခန့်ရှိ မြေဧက(၁၃. ၈၀)ပေါ်တွင် **ဖိနပ်နှင့်ဖိနပ်ထည့်အိတ်များချုပ်လုပ်၍ ပြည်ပသို့ ပြန်လည်တင်ပို့ခြင်းလုပ်ငန်း**ကို ဆောင်ရွက်လိုပါသဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခွင့်ပြုမိန့်တောင်းခံသည့်ကုမ္ပဏီဖြစ်ပါသည်။

၂။ ကျွန်တော်များကုမ္ပဏီအနေဖြင့် အဆိုပြုလုပ်ငန်းစီမံကိန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့်ရရှိသည့်နေ့မှစ၍ (၁)နှစ်အတွင်း အပြီးဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၃။ ကျွန်တော်များကုမ္ပဏီအနေဖြင့် အဆိုပြု (CMP)စနစ်ဖြင့် ဖိနပ်နှင့်ဖိနပ်ထည့်အိတ်များချုပ်လုပ်သည့်လုပ်ငန်းဆောင်ရွက်ရန် မူလရှိရင်းစွဲ အဆောက်အဦများအား ပြင်ဆင်မွမ်းမံသွားမည်ဖြစ်ပြီး လုပ်ငန်းအတွက် နိုင်ငံခြားငွေUS$(1.425)သန်းအပါအဝင် စုစုပေါင်းကျပ်သန်း(၂၅၀၀. ၀၀)ကိုရင်းနှီးသွားမည်ဖြစ်ပါသည်။

၄။ ကျွန်တော်များကုမ္ပဏီမှ ဤစီမံကိန်းကို အကောင်အထည်ဖော်ဆောင်ရွက်နိုင်ခြင်းဖြင့် ဒေသဖွံ့ဖြိုးလာမည့်အပြင် ဒေသခံပြည်သူများအတွက် အလုပ်အကိုင်ခွင့်အလမ်းများ ပိုမိုထွက်ပေါ်လာမည်ဖြစ်ခြင်းကြောင့် ဒေသခံပြည်သူများသည် စီးပွားရေးဖွံ့ဖြိုးတိုးတက်၍ ဆင်းရဲနွမ်းပါးမှုကို လျှော့ချနိုင်မည်ဖြစ်ပါသည်။

၅။ သို့ပါ၍ ကျွန်တော်များကုမ္ပဏီမှ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ ကျောက်ဆည်မြို့အရှေ့ဘက်၊ ၅ မိုင် ၁ ဖာလုံခန့် ရှိ မြေဧက(၁၃. ၈၀)ပေါ်တွင် ဖိနပ်နှင့်ဖိနပ်ထည့်အိတ်များ

ချုပ်လုပ်သည့်စက်ရုံအား ပြုပြင်မွမ်းမံ၍ (CMP) စနစ်ဖြင့် ဖိနပ်နှင့်ဖိနပ်ထည့်အိတ်များချုပ်လုပ်၍ ပြည်ပသို့ ပြန်လည်တင်ပို့သည့် လုပ်ငန်းစီမံကိန်းအား လုပ်ကိုင်ခွင့်ပြုပါ ရန်အဆိုပြုချက် ပုံစံ(၂)ဖြင့် တင်ပြလျှောက်ထား အပ်ပါသည်။

လေးစားစွာဖြင့်

WIN SWE
(Managing Director)
Win & Win Co , Ltd



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အဆိုပြုချက်စိစစ်ရေးအဖွဲ့
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☎ -၀၁-၆၅၈၁၂၈
🖷 -၀၁-၆၅၈၁၄၁

စာအမှတ် ၊ မရက- ၃/ခ-၀၂၀/၂၀၁၉( ၈၆၃ )
ရက်စွဲ ၊ ၂၀၁၉ ခုနှစ် မေလ ၂၈ ရက်

သို့

ပြည်ထောင်စုဝန်ကြီးရုံး
စက်မှုဝန်ကြီးဌာန

အကြောင်းအရာ။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ဝင်းနှင့်ဝင်းကုမ္ပဏီလီမိတက် (Win & Win Co., Ltd.)မှ CMP စနစ်ဖြင့် ဖိနပ်နှင့်ဖိနပ်ထည့်အိတ်များချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ

ရည် ညွှန်း ချက် ။ (၁) စက်မှုဝန်ကြီးဌာန၏ ၂၀၁၉ ခုနှစ် မေလ ၁၆ ရက်စွဲပါစာအမှတ်၊ ဧ-စမ(၂) ၂၀၁၈-၂၀၁၉(၂၆၆၃)

(၂) Win & Win Company Limited ၏ ၂၀၁၉ ခုနှစ် မေလ ၁၇ ရက်စွဲပါစာ

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ဝင်းနှင့်ဝင်းကုမ္ပဏီလီမိတက် (Win & Win Co., Ltd.) မှ CMP စနစ်ဖြင့် ဖိနပ်နှင့်ဖိနပ်ထည့်အိတ်များချုပ်လုပ်ခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် စက်မှုဝန်ကြီးဌာနမှတစ်ဆင့် တင်ပြလာခြင်းကိစ္စအား ၂၀၁၉ ခုနှစ် မေလ ၂၇ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၁၈/၂၀၁၉ ကြိမ်မြောက်အစည်းအဝေးမှ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည်-

(က) လုပ်ငန်းပြောင်းလဲ ဆောင်ရွက်ခြင်းအတွက် နိုင်ငံတော်သမ္မတရုံး ခွင့်ပြုချက်တင်ပြရန်။

(ခ) ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက် နှင့် အညီ ပြင်ဆင်ချုပ်ဆိုထားသော မြေငှားစာချုပ်တင်ပြရန်။

(ဂ) မြေအထောက်အထားနှင့် စက်ရုံ၏ Layout Plan တင်ပြရန်။

(ဃ ) နှစ်စဉ်လျှပ်စစ်ဓါတ်အားလိုအပ်ချက်နှင့် လျှပ်စစ်သွယ်တန်းမှုတို့အတွက် Single Line Diagram တင်ပြရန်။

(င) နှစ်အလိုက်ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထွက်ရှိမည့် အစီအစဉ် တင်ပြရန်။

(စ) CMP Norm, CMP Contract တင်ပြရန်နှင့် တင်ပို့မည့်နိုင်ငံ ဖော်ပြရန်။

(ဆ) စက်ပစ္စည်းစာရင်း တင်ပြရာတွင် HS Code ထည့်သွင်းတင်ပြရန်။

(ဇ) နှစ်အလိုက် နိုင်ငံသားအလုပ်သမားခန့်ထားမှုအစီအစဉ်တင်ပြရန်။

(ည) နိုင်ငံခြားငွေယူဆောင်လာမည့်အစီအစဉ်တင်ပြရန်။

၂။ ကုမ္ပဏီမှ အထက်အပိုဒ်-၁ ပါဆုံးဖြတ်ချက်များနှင့်အညီ လိုအပ်သည်များ ဆောင်ရွက်ပြီး ပြန်လည် တင်ပြပေးရန် အကြောင်းကြားပါသည်။

အဖွဲ့ခေါင်းဆောင်
(တင်အေးဟန်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူကို

ဦးဆောင်ညွှန်ကြားရေးမှူး၊ အမှတ် ၃ အကြီးစားစက်မှုလုပ်ငန်း
ဝင်းနှင့်ဝင်းကုမ္ပဏီလီမိတက် (Win & Win Co., Ltd.)
ရုံးလက်ခံ/မျှောစာတွဲ